သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စု မြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၂၀၀၁ ခုနှစ်၊ မေလ၊ ( ၇ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်များ အကြိုစိစစ်ပေးနိုင်ရန် ပေးပို့ခြင်း။

အထက် အကြောင်းအရာနှင့် ပတ်သက်၍ **MYANMAR KING FISH LTD.** ( မြန်မာ ငါးဘုရင် လီမိတက် ) အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ ငါး၊ ပုဇွန် ပြုပြင် ထုတ်လုပ်မှုနှင့် အအေးခန်းစက်ရုံ (PROCESSING & COLD STORAGE FACTORY) ကို တည်ဆောက်ပြီး ရေခဲနှင့် သန့်ရှင်း လတ်ဆတ်သော ငါး၊ ပုဇွန်များ ထုတ်လုပ် ရောင်းချသည့် လုပ်ငန်း လုပ်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ပါ၍ ကျွန်တော်တို့ ကုမ္ပဏီ၏ အဆိုပြုလွှာကို အစိုးရအဖွဲ့ သို့ ဆက်လက် တင်ပြနိုင်ရန် အတွက် အဆိုပြုလွှာ (၂၂)စုံ ကို ပေးပို့ တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးခင်ကျော်
( အုပ်ချုပ်မှု ဒါရိုက်တာ )
**MYANMAR KING FISH LTD.**

ထုတ်လုပ်ရောင်းချသည့်လုပ်ငန်း လုပ်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။

နေ့စွဲ ။ ။ ၂၀၀၀ ခုနှစ်၊ ဧပြီလ၊ (၂၀) ရက်။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း။

အထက်ပါ အကြောင်းအရာနှင့် ပတ်သက်၍ ကျွန်တော်တို့၏ MYANMAR KING FISH LTD. ( မြန်မာ ငါးဘုရင် လီမိတက် ) အနေဖြင့် ရန်ကုန်တိုင်း၊ ရွှေပြည်သာ မြို့နယ်၊ မြေတိုင်း ရပ်ကွက်အမှတ် (၆၄)၊ စက်မှုဒေသ အကွက်အမှတ်(၄)၊ ဧရိယာ(၁.၆၉)ဧက အကျယ်အဝန်းရှိ မြေနေရာတွင် နိုင်ငံတကာအဆင့်မီ ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်မှုနှင့် အအေးခန်းစက်ရုံ (PROCESSING & COLD STORAGE FACTORY ) တည်ဆောက်ပြီး သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များထုတ်လုပ်၍ ပြည်ပသို့ ရောင်းချသည့်လုပ်ငန်း လုပ်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

ကျွန်တော်တို့ ကုမ္ပဏီ၏ အဆိုပြုလွှာကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ လိုအပ်သလို ဆက်လက်တင်ပြနိုင်ရန် အဆိုပြုလွှာ (၁၈) စုံကို ပေးပို့ တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးခင်ကျော်
(အမှုဆောင် ဒါရိုက်တာ / ကမကထပြုသူ)
MYANMAR KING FISH LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။

နေ့စွဲ ။ ။ ၂၀၀၀ ပြည့်နှစ်၊ ဇူလိုင် လ၊ (၂၄)ရက်။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သတ်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။

အထက်အကြောင်းအရာပါ ကိစ္စနှင့် ပတ်သတ်၍ ကျွန်တော်တို့ **MYANMAR KING FISH LTD** ( မြန်မာ ငါးဘုရင် လီမိတက် ) အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် တန်(၂၀၀) ဆန့် နိုင်ငံတကာ အဆင့်မီအအေးခန်းသိုလှောင်ရုံ ( **COLD STORAGE** ) တည်ဆောက်ပြီး သန့်ရှင်း လတ်ဆတ် သော ငါး၊ ပုဇွန်များ ထုတ်လုပ် ရောင်းချသည့် လုပ်ငန်း လုပ်ကိုင် နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။ ထိုသို့လျှောက်ထားရာတွင် အောက်ပါအတိုင်း ဝန်ခံကတိပြုပါသည်။

(၁) ဤအဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်သော လုပ်ငန်း ဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်း ဝန်ခံကတိ ပြုပါသည်။

(၂) ဤ အဆိုပြုလုပ်ငန်းသည် ရေထွက် ကုန်ပစ္စည်းများအား ပြည်ပသို့တင်ပို့ ရောင်းချခြင်းအတွက် ဈေးကွက်အခိုင်အမာ ရှိပြီး ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၃) ဤအဆိုပြု လုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် ရရှိမှသာ စတင်ဆောင်ရွက်မည့် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၄) နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

(၅) လုပ်ငန်း ဆောင်ရွက် ရာတွင် ပြည်ပမှ ဈေးငွေ ရယူခြင်းသည် နိုင်ငံတော် နှင့် သက်ဆိုင်ခြင်း မရှိ စေဘဲ ဈေးယူသူ၏ တာဝန်သာဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။ ဈေးငွေ ပြန်လည် ပေးဆပ်ရာ တွင်လည်း အဆိုပြု လုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(၆) ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်း ဆောင်ရွက်ရာ တွင်လည်း ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု မဖြစ်ပွားစေရန်နှင့် မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည် ဖြစ်ကြောင်း၊စက်ရုံတွင် အန္တရာယ်ကင်းရှင်းစေသော အမိုးနီးယား ဓာတ်ငွေ့သုံး ခေတ်မီစက်အသစ်များကိုသာ သုံးစွဲ ဆောင်ရွက်သွားမည် ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် **Waste Water Treatment Plant** တစ်ဆင် အသုံးပြုမည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေ လေးစားစွာဖြင့်
လျှောက်ထားသူ

(signature)
ဦးခင်ကျော်
( အုပ်ချုပ်မှု ဒါရိုက်တာ )
MYANMAR KING FISH LTD

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၂၀၀၀ ပြည့်နှစ်၊ ဇူလိုင် လ၊ (၂၆) ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်ထုတ်ပေးပါရန်နှင့် ယင်းဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့် ပြုပါရန်လျှောက်ထားခြင်း။**

၁။ အထက် အကြောင်း အရာပါ ကိစ္စနှင့် ပတ်သတ်၍ ကျွန်တော်တို့ **MYANMAR KING FISH LTD** ( မြန်မာ ငါးဘုရင် လီမိတက် ) အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် တန် (၂၀၀) ဆန့် နိုင်ငံတကာ အဆင့်မီ ငါး၊ ပုစွန် ပြုပြင် ထုတ်လုပ်မှု နှင့် အအေးခန်း စက်ရုံ **( PROCESSING & COLD STORAGE FACTORY )** တည်ဆောက်ပြီး သန့်ရှင်း လတ်ဆတ်သော ငါး၊ ပုစွန်များ ထုတ်လုပ် ရောင်းချသည့် လုပ်ငန်း လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ကျွန်တော်တို့ကုမ္ပဏီသည် ရန်ကုန်တိုင်း၊ ရွှေပြည်သာ မြို့နယ်၊ မြေတိုင်းရပ်ကွက် အမှတ် (၆၄) စက်မှုဒေသ၊ အကွက် အမှတ် (၄)၊ ဧရိယာ (၁.၆၉) ဧက အကျယ်အဝန်းရှိသော မြေနေရာတွင် နိုင်ငံတကာ အဆင့်မီ ငါး၊ ပုစွန် ပြုပြင် ထုတ်လုပ်မှု နှင့် အအေးခန်းစက်ရုံ တည်ဆောက်ပြီး၊ ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် ကုန်ကြမ်းများ ဝယ်ယူ၍ ခေတ်မီ နည်းပညာများ၊ စက်ကိရိယာများဖြင့် ထုတ်လုပ်၍ ပြည်ပသို့ တင်ပို့ ရောင်းချမည်ဖြစ်ပါသည်။

၂။ ကျွန်တော်တို့၏ ကုမ္ပဏီသည် နိုင်ငံတကာ အဆင့်မီ ငါး၊ ပုစွန် ပြုပြင် ထုတ်လုပ်မှု နှင့် အအေးခန်းစက်ရုံ တည်ဆောက်၍ ငါး၊ ပုစွန် ထုတ်လုပ်ခြင်း အတွက် မတည်ရင်းနှီးငွေ ကျပ် သန်းပေါင်း (၆၉.၆၅) သန်းကို မြန်မာကျပ်ငွေ၊ စက်ရုံအဆောက်အဦး၊ စက်ပစ္စည်း ကိရိယာများ၊ ကုန်ကြမ်း ပစ္စည်းများဖြင့် ထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံ ကြမည်ဖြစ်ပါသည်။ ထုတ်လုပ် ရရှိလာသော နိုင်ငံတကာ အဆင့်အတန်းမီ သန့်ရှင်း လတ်ဆတ်သော ငါး၊ ပုစွန်များကို နိုင်ငံခြားသို့ ရာခိုင်နှုန်းပြည့် တင်ပို့ရောင်းချ မည် ဖြစ်ပါသည်။

၃။ ကျွန်တော်တို့၏ ကုမ္ပဏီ လီမိတက်သည် အဆိုပြုလုပ်ငန်း အတွက် လိုအပ်သော အမေရိကန် ဒေါ်လာ (၁.၂၅)သိန်း တန်ဖိုး ရှိသော စက်ပစ္စည်းကိရိယာများ၊ လုပ်ငန်းသုံး ပစ္စည်းများကို အိန္ဒိယနိုင်ငံ **ANDAMAN SEA FOODS PVT LTD** မှ **Deferred Payment Loan Agreement** ဖြင့် ဝယ်ယူ တင်သွင်း၍ လေးနှစ်ဖြင့် ပြန်လည် ပေးဆပ်ရန် တနှစ်လျှင် (၅) ရာခိုင်နှုန်း အတိုးဖြင့် လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ကျွန်တော်တို့ ကုမ္ပဏီ၏ နိုင်ငံတကာအဆင့်မီ ငါး၊ ပုစွန် ပြုပြင် ထုတ်လုပ်မှုနှင့် အအေးခန်းစက်ရုံ တည်ဆောက်၍ ငါး၊ ပုစွန် ထုတ်လုပ်ခြင်း လုပ်ငန်းသည် နိုင်ငံတော်အတွင်း နိုင်ငံခြားဝင်ငွေများ စီးဝင်လာစေခြင်း၊ နိုင်ငံတော် အတွက် အခွန် ဘဏ္ဍာငွေများ တိုးပွား ရရှိစေခြင်း၊ မြန်မာနိုင်ငံသားများ၏ အလုပ်အကိုင် အခွင့်အလမ်းများ တိုးတက် ပေါ်ပေါက်စေခြင်း၊ နိုင်ငံတော် အတွင်း ခေတ်မီ နည်းပညာရပ်များ တိုးပွား ရရှိစေခြင်း၊ နိုင်ငံတော်၏ ဘက်စုံ စီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုကို အရှိန်အဟုန် မြှင့်၍ ထောက်ကူ ပံ့ပိုးပေးခြင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရန် အကာအကွယ်ပေးသည့် ပစ္စည်းကိရိယာများ ( **Environmental Treatment Plants** ) တပ်ဆင်အသုံးပြုခြင်း စသည့်အကျိုးစီးပွား ဖြစ်ထွန်း ပေါ်ပေါက်စေသည့် အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဤအဆိုပြုချက်ကို လက်ခံ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် **(Permit)** ထုတ်ပေးပါရန် လေးစားစွာလျှောက်ထားတင်ပြအပ်ပါသည်။

၅။ ကျွန်တော်တို့ ကုမ္ပဏီအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ တို့ အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန်နှင့် ပြည်ပသို့ နိုင်ငံခြားငွေဖြင့် သန့်ရှင်းလတ်ဆပ်သော ငါး၊ ပုစွန်များ ရောင်းချရာတွင် ကုန်သွယ်လုပ်ငန်းခွန် သက်သာခွင့်ရရှိရေးအတွက် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနသို့ ထောက်ခံတင်ပြ ခွင့်ပြုပါရန် လေးစားစွာတင်ပြအပ်ပါသည်။

၆။ ဤအဆိုပြုချက်နှင့်အတူ အောက်ဖော်ပြပါ စာရွက်စာတမ်း အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(၁) ကမကထ ပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက် (မနသ-ပုံစံ)
(၂) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊
(၃) မြေပိုင်ဆိုင်မှု အထောက်အထားများ၊
(၄) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊
(၅) ဘဏ္ဍာရေးဆိုင်ရာအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုများ၊

စသည်တို့ဖြစ်ပါသည်။

၇။ သို့ဖြစ်ပါ၍ ဤအဆိုပြုချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လက်ခံခွင့်ပြုတော်မူပါရန်နှင့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့် ပြုတော်မူပါရန် ခွင့်ပြုမိန့် **(Permit)** ထုတ်ပေးသင့်ပါကြောင်း လေးစားစွာ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ဦးခင်ကျော်
မန်နေးဂျင်း ဒါရိုက်တာ/ကမကထပြုသူ
**MYANMAR KING FISH LTD.**

# MYANMAR KING FISH LTD

## မြန်မာ ငါးဘုရင် လီမိတက်

### မီးဘေးကာကွယ်မှု အစီအမံများ

(၁) စက်ရုံ၏ ပတ်လည်တွင် ၁၅ ပေလျှင် ၁ လက္ခ ရေပိုက်ခေါင်း (၁)ခုနှင့် ပိုက်ပျော့ (၅၀)ပေ (၁)ခုစီ ထားရှိခြင်း။

(၂) မီးသတ်ဆေးဗူး (၅၀)ကို စက်ရုံ အတွင်းနံရံများတွင် ချိတ်ဆွဲထားရှိခြင်း။

(၃) ရေအလွယ်တကူရရှိစေရန် စက်ရုံအနောက်ဘက်တွင် ရေစင်ငယ်ဆောက်လုပ်ပြီး ရေပိုက်များနှင့် ဆက်စပ်ထားရှိခြင်း။

(၄) ရေကန်ငယ် (၅)လုံးခန့် စက်ရုံ၏ ဘေးတွင် ထားရှိပြီး အစဉ်အမြဲ ရေဖြည့်ထားရှိခြင်း။

(၅) ပလပ်စတစ် အတိုအစများကို မီးဘေးမှ ကင်းလွတ်အောင် စွန့်ပစ်ရန် စီစဉ်ခြင်း။

(၆) အမိုက်သရိုက် လောင်စာများကို ပုံမှန်ရှင်းလင်းခြင်း။

(၇) လောင်စာဆီ ပေပါများကို ရေကန်ငယ်များ ပြုလုပ်၍ အနီးအနားတွင် ထားရန်စီစဉ်ခြင်း။

(၈) စက်ရုံတွင် အရေးပေါ် ထွက်ပေါက်များ ထားရှိခြင်း။

(၉) အလျှဉ်းသင့်သလို ဝန်ထမ်းများကို အရန်မီးသတ် သင်တန်းများ တက်ရောက်စေရန် စီစဉ်ထားခြင်း။

(၁၀) ကိုယ်ပိုင် မီးသတ်စက် (၁) လုံး ဝယ်ယူထားရှိရန် စီစဉ်ထားခြင်း။

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ (မနသ-၁)

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

(ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ။ ။ ၂၆-၇-၂၀၀၀

ကျွန်တော် /ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့် ထုတ်ပေးပါရန် အောက်ပါ အချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

| | | |
|---|---|---|
| (က) | အမည် | ဦးခင်ကျော် |
| (ခ) | အဖအမည် | ဦးလှမောင် |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၁၂/သဃက (နိုင်) ၀၁၁၅၁၆ |
| (ဃ) | နေရပ်လိပ်စာ | အမှတ်(၇၇)၊ ၄၀ါလမ်း၊ အလုံမြို့နယ်၊ ရန်ကုန်မြို့။ |
| (င) | လူမျိုး၊ ဘာသာ | ဗမာ ၊ ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | မြန်မာ ငါးဘုရင် လီမိတက်<br>MYANMAR KING FISH LTD |
| (ဆ) | လုပ်ငန်းအမျိုးအစား | ငါး၊ ပုစွန် ပြုပြင် ထုတ်လုပ်မှုနှင့် အအေးခန်း စက်ရုံ |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုမည့်သူများ၏-

(က) အမည် -

(ခ) အဖအမည် -

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် -

(ဃ) နေရပ်လိပ်စာ -

(င) လူမျိုး၊ ဘာသာ -

(စ) အဖွဲ့အစည်းအမည် -

(ဆ) လုပ်ငန်းအမျိုးအစား -

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် -

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား -

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း - တန် (၂၀၀) ဆန့် အအေးခန်းစက်ရုံ တည်ဆောက် ၍ သန့်ရှင်း လတ်ဆတ် သော ငါး၊ ပုဇွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း

(ခ) ဝန်ဆောင်မှုလုပ်ငန်း -

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ -

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း - လီမိတက်ကုမ္ပဏီ(နောက်ဆက်တွဲဇယား - ၁)

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း -

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း -

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေး အဖွဲ့အစည်းပုံသဏ္ဌာန် -

(က) တစ်ဦးတည်းပိုင် -
(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း -
(ဂ) လီမိတက် ကုမ္ပဏီ - **MYANMAR KING FISH LTD**
(ဃ) သမဝါယမအသင်း -

၆။ ဖက်စပ်/ အစုစပ်လုပ်ငန်းဖြစ်ပါက -
(က) အစုဝင်တို့က ထည့်ဝင်မည့် အစုငွေ အမျိုးအစားနှင့် ပမာဏ -
(ခ) အကျိုးအမြတ် ခွဲဝေမည့် အမျိုးအစား -
(ဂ) အစုဝင်များ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ -

၇။ သမဝါယမအသင်း/ လီမိတက် ကုမ္ပဏီဖြစ်ပါက -

(က) ခွင့်ပြု မတည်ငွေရင်း - ကျပ် ၅၀၀,၀၀၀,၀၀၀/- (ကျပ် သန်း ငါးရာတိတိ)

(ခ) အစုရှယ်ယာ အမျိုးအစား - တစ်စုလျှင်ကျပ် ၁,၀၀၀/- (ကျပ် တစ်ထောင်တိတိ တန်) သာမန် အစုရှယ်ယာ ၅၀၀,၀၀၀ (ငါးသိန်း)

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့် အစုရှယ်ယာပမာဏ - ကျပ် ၆၉,၆၅၀,၀၀၀/- ( ကျပ် ခြောက်ရာကိုးဆယ့်ခြောက်သိန်းနှင့် ငါးသောင်းတိတိ ) တစ်စုလျှင်ကျပ် ၁,၀၀၀/- (ကျပ် တစ်ထောင်တိတိတန်) အစုရှယ်ယာ ၆၉,၆၅၀/- (ခြောက်သောင်းကိုးထောင်ခြောက်ရာငါးဆယ်)

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ -

(က) မတည်ငွေရင်းပမာဏ(ယခုအဆိုပြုလုပ်ငန်းအတွက်) (ကျပ်)

| | | |
|---|---|---|
| (၁) | ငွေပမာဏ | ၂၀,၀၀၀,၀၀၀ |
| (၂) | မြေ | ၁၃,၂၀၀,၀၀၀ |
| (၃) | အဆောက်အဦး(နောက်ဆက်တွဲယား-၂) | ၁၅,၅၀၀,၀၀၀ |
| (၄) | စက်ပစ္စည်းကိရိယာများ(နောက်ဆက်တွဲယား-၃) US$ 125000 | ၇၅၀,၀၀၀ |
| (၅) | စက်ပစ္စည်းကိရိယာများ(နောက်ဆက်တွဲယား-၃က) | ၂၀,၉၅၀,၀၀၀ |

စုစုပေါင်း ထည့်ဝင်ရင်းနှီးငွေ ၇၀,၄၀၀,၀၀၀

( စက်ပစ္စည်းကရိယာများကို MYANMAR KING FISH LTD သည် စက်ပစ္စည်းများကို အိန္ဒိယနိုင်ငံ၊ ANDAMAN SEA FOODS PVT LTD. ရွှေ့ဆိုင်းငွေ ပေးချေစနစ် ( Deferred Payment System ) အရ(၄) နှစ် အကြေးဖြင့် တစ်နှစ်လျှင် ၅ ရာခိုင်နှုန်း အတိုးနှုန်းဖြင့် ဝယ်ယူ မည်ဖြစ်ပါသည်။

| | | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|---|
| (ခ) | နိုင်ငံခြားမှတင်သွင်းရန် လိုအပ်သည့် | | |
| (၁) | စက်ပစ္စည်းများ၊ စက်ကိရိယာများ၏တန်ဖိုး | ၇၅၀,၀၀၀ | ၁၂၅,၀၀၀ |
| (၂) | ကုန်ကြမ်းပစ္စည်းများနှင့်အခြားအလားတူ ပစ္စည်းတန်ဖိုး | - | - |
| (၃) | ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ | - | - |
| | | ၇၅၀,၀၀၀ | ၁၂၅,၀၀၀ |

(ဂ) တည်ဆောက်မှုကာလ — ၆လ

(ဃ) ပမာဏစမ်းသပ်လေ့လာမှုပြုလုပ်မည့်ကာလ — ၄လ

(င) တည်ဆောက်မှုစတင်မည့်အချိန် — မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်ရရှိသည့်နေ့မှစတင်ဆောင်ရွက်သွားမည်။

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သော အချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား - တန် (၂၀၀) ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ သန့်ရှင်း လတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ - ရွှေပြည်သာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ စက်မှုဒေသ၊ မြေကွက်အမှတ် (၄)၊

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - ခေတ်မီထုတ်လုပ်ခြင်းစနစ်

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက် -

| | | | |
|---|---|---|---|
| ၁။ | ဒီဇယ်ဆီ | - | ဂါလံ(၁၀၀၀၀) |
| ၂။ | ဓါတ်ဆီ | - | ဂါလံ( ၂၂၀၀) |
| ၃။ | စက်ဆီ၊ ချောဆီ | - | ဂါလံ( ၁၀၀) |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက် -

| | | | |
|---|---|---|---|
| ၁။ | လျှပ်စစ်ဓါတ်အား | - | ၄၀၀ KW |
| ၂။ | ဒီဇယ်ဆီအင်ဂျင်စက်အား | - | (၅၅၀) H.P |
| ၃။ | ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | - | |
| ၄။ | သဘာဝဓါတ်ငွေ့သုံးစက်အား | - | |
| ၅။ | ပေးပို့သည့် အခြားအား (ရေအား/လေအားစသည်များ) | - | |

(စ) နှစ်စဉ်ရေလိုအပ်ချက်

| | | | |
|---|---|---|---|
| ၁။ | တစ်နေ့ ရေလိုအပ်ချက်ဂါလံ | - | ဂါလံ(၈၀၀၀) |
| ၂။ | တစ်နှစ် ရေလိုအပ်ချက် | - | ဂါလံ(၂၄၀,၀၀၀) |

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက်- နောက်ဆက်တွဲဇယား (၄)

(ဇ) အဆောက်အဦး လိုအပ်ချက် — နောက်ဆက်တွဲဇယား (၂)

(ဈ) မြေနေရာ အမျိုးအစားနှင့်အကျယ်အဝန်း လိုအပ်ချက် — ရွှေပြည်သာမြို့နယ်၊ မြေတိုင်းရပ်ကွက် အမှတ် (၆၄)၊ စက်မှုဒေသ၊ မြေကွက်အမှတ် (၄)၊ ဧရိယာ (၁.၆၉) ဧက အကျယ်အဝန်းရှိမြေ။

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ဆောင်ရွက်မည့်ဝန်ဆောင်မှု — နောက်ဆက်တွဲဇယား (၅)

(ဋ) ရောင်းချမည့်စနစ် — ပြည်ပတင်ပို့ရောင်းချမှု (၁၀၀) ရာခိုင်နှုန်း

၁၀။ နှစ်စဉ် ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

| | | ခန့်မှန်းခြေ ကျပ်ငွေ | ခန့်မှန်းခြေ နိုင်ငံခြားငွေ |
|---|---|---|---|
| (က) | လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | - | |
| (ခ) | လိုအပ်မည့် နိုင်ငံခြားငွေ | နောက်ဆက်တွဲဇယား - | (၇) |
| (ဂ) | ရရှိမည့် နိုင်ငံခြားသုံးငွေပမာဏ | နောက်ဆက်တွဲဇယား - | (၅) |
| (ဃ) | ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | နောက်ဆက်တွဲဇယား - | (၅) |
| (င) | နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှု တန်ဖိုးပမာဏ | နောက်ဆက်တွဲဇယား - | (၅) |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း -

(က) ပြည်တွင်းမှ လိုအပ်မည့် အမှုထမ်းများ - နောက်ဆက်တွဲဇယား -(၆)

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ -

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

(က) နှစ်စဉ် ဝင်ငွေရရှိမှု — နောက်ဆက်တွဲဇယား -(၇)

(ခ) နှစ်စဉ် လုပ်ငန်းကုန်ကျစရိတ် — နောက်ဆက်တွဲဇယား -(၇)

(ဂ) နှစ်စဉ် အသားတင်အမြတ် — နောက်ဆက်တွဲဇယား -(၇)

(ဃ) နှစ်အလိုက် ရင်းနှီးမြှုပ်နှံမှု — နောက်ဆက်တွဲဇယား -(၈)

(င) အခြား အကျိုးအမြတ်များ — နောက်ဆက်တွဲဇယား -(၉)

(စ) အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေ — နောက်ဆက်တွဲဇယား -(၆)

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့်စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်း ဖြစ်ပါက သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်း / ဖွဲ့စည်းခြင်း မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်း နှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်း ဖြစ်ပါက လက်ရှိခြေအနေ နှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

( လျှောက်ထားသူ )

လက်မှတ်၊ [signature]

အမည်၊ ဦးခင်ကျော်

ရာထူး၊ အုပ်ချုပ်မှုဒါရိုက်တာ
**MYANMAR KING FISH LTD.**

# MYANMAR KING FISH LIMITED.

## LIST OF EXECUTIVES

Exhibit No.I

| Sr No | Name | Citizenship N.R.C No/ Passport No | Designation | Address | Amount of Capital | % |
|---|---|---|---|---|---|---|
| | မြန်မာငါး ဘုရင် လီမိတက် ကို ကိုယ်စားပြုသူများ | | | | ကျပ်(၆၉.၆၅)သန်း | 100% |
| ၁ | ဦးခင်ကျော် | ၁၂/သဃက(နိုင်) ၀၁၁၅၁၆ | အုပ်ချုပ်မှုဒါရိုက်တာ | အမှတ် (၇၇)၊ ၄၀လမ်း ၊ အလုံမြို့နယ်၊ ရန်ကုန်မြို့။ | | 53% |
| ၂ | ဦးဝင်းအောင် | ၁၂/ပဘတ(နိုင်) ၀၁၉၀၉၃ | ဒါရိုက်တာ | အမှတ်(၂၂)၊ ရွှေတိဂုံဘုရားလမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။ | | ,0.7% |
| ၃ | ဒေါ်အေးအေးမြင့် | ၁၂/အလန(နိုင်) ၀၂၃၅၈၉ | ဒါရိုက်တာ | အမှတ် (၇၇)၊ ၄၀လမ်း ၊ အလုံမြို့နယ်၊ ရန်ကုန်မြို့။ | | 12% |
| ၄ | ဒေါ်ပိုးကြူ (ခ) ဒေါ်ယဉ်ယဉ်အေး | ၁၂/ပဘတ(နိုင်) ၀၂၂၈၀၆ | ဒါရိုက်တာ | အမှတ်(၂၂)၊ ရွှေတိဂုံဘုရားလမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။ | | 24% |
| ၅ | ဦးငွေးလွင် | ၁၂/ပဘတ(နိုင်) ၀၁၉၀၉၂ | ဒါရိုက်တာ | အမှတ်(၂၂)၊ ရွှေတိဂုံဘုရားလမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။ | | ,10.3% |
| | | | | စုစုပေါင်း ရင်းနှီးငွေ | ကျပ်(၆၉.၆၅)သန်း | 100% |

## MYANMAR KING FISH LIMITED.

### FACTORY BUILDING

Exhibit No.II

| Sr No | Description | Dimension | No. of Building | Estimate Cost (Kyats) | Remark |
|---|---|---|---|---|---|
| 1 | Factory Building | 178' x 60' | 1 | 8,600,000 | |
| 2 | Quarter | 54' x 27' | 1 | 2,500,000 | |
| 3 | Office | 36' x 18' | 1 | 1,000,000 | |
| 4 | Female Changing Room | 18' x 90' | 1 | 1,500,000 | |
| 5 | Male Changing Room | | | | |
| 6 | Waste Water Treatment Plant (Civil Work) | | | 1,900,000 | |
| | TOTAL | | | **15,500,000** | |

# MYANMAR KING FISH LIMITED.

## LIST OF MACHINERIES & EQUIPMENTS (IMPORTED)

Exhibit No. III

| Sr No. | Particulars | Qty | Unit Price In US$ | Value In US$ |
|---|---|---|---|---|
| 1 | Unit Cooler For Air Blast Freezer<br>3 Mt / 6 Hr & Necessary Accessories<br>(Complete Set) | 2 Set | 16,000 | 32,000 |
| 2 | Unit Cooler For Cold Room, - 25' C<br>17 m x 16 m x 3.6 m & Necessary accessories<br>(Complete Set) | 1 Set | 7,000 | 7,000 |
| 3 | Insulation Panels & Slabs, Doors,<br>Lighting Materials for Cold Room,<br>Air Blast Freezer, Flaice ice Store | 1 Set | 41,000 | 41,000 |
| 4 | Contact Plate Freezer<br>500 Kg / 1.5 hr | 1 Set | 20,000 | 20,000 |
| 5 | Metal Dectactor | 1 Set | 10,000 | 10,000 |
| 6 | Insulated Vehicle | 3 Nos | 5,000 | 15,000 |
| | TOTAL | | - | 125,000 |

Note:- Insulated Vehicle ဆိုသည်မှာ ငါး၊ ပုဇွန်များ သယ်ဆောင်ရာတွင် ပြင်ပမှ အပူဓါတ်များ Container တွင်းသို့ ဝင်ရောက်ခြင်း မရှိစေရန် စီမံထားသော ယာဉ်ဖြစ်ပါသည်။

## MYANMAR KING FISH LIMITED.

### LIST OF MACHINERIES & EQUIPMENTS (LOCAL PURCHASE)

Exhibit No. IIIA

| Sr No. | Particulars | Qty Units | Unit Price In Kyats | Value In Kyats |
|---|---|---|---|---|
| 1 | Compressor & Motor (Complete Set) | 2 Set | 3,700,000 | 7,400,000 |
| 2 | Compressor & Motor (Complete Set) | 1 Set | 2,000,000 | 2,000,000 |
| 3 | Liquid Receiver (Complete Set) | 1 Set | 600,000 | 600,000 |
| 4 | Condenser (Complete Set) | 1 Set | 978,000 | 978,000 |
| 5 | Flake Ice Maker (Complete Set) | 1 Set | 1,500,000 | 1,500,000 |
| 6 | Electrical Switch Board & Necessary Accessories | 1 Lot | 700,000 | 700,000 |
| 7 | Pipes & Installation Materials | 1 Lot | 800,000 | 800,000 |
| 8 | Stand By Generator (Complete Set) | 1 Set | 4,200,000 | 4,200,000 |
| 9 | Transformer (Complete Set) | 1 Set | 2,000,000 | 2,000,000 |
| 10 | Waste Water Treatment | | | 772,000 |
| | TOTAL | | | 20,950,000 |

# MYANMAR KING FISH LIMITED.

## VALUE OF RAW - MATERIALS

Exhibit No. IV

| Sr No. | | Particulars | A/U | Year 1 | Year 2 | Year 3 | Year 4 | Year 5-10 |
|---|---|---|---|---|---|---|---|---|
| 1 | | **PURCHASE QTY** | | | | | | |
| | 1 | Fresh Water Fish | Viss | 217700 | 228585 | 239470 | 250355 | 261240 |
| | 2 | Sea Water Fish | Viss | 155500 | 163275 | 171050 | 178825 | 186600 |
| | 3 | Fresh Water Prawe | Viss | 28700 | 30135 | 31570 | 33005 | 34440 |
| | 4 | White Prawn | Viss | 28700 | 30450 | 32200 | 33005 | 34440 |
| | 5 | Tiger Prawn | Viss | 28700 | 30450 | 32200 | 33005 | 34440 |
| | 6 | Pink Prawn | Viss | 33500 | 35175 | 36850 | 38525 | 40200 |
| 2 | | **PURCHASE PRICE** | | | | | | |
| | 1 | Fresh Water Fish | Ks/Viss | 860 | 860 | 860 | 800 | 825 |
| | 2 | Sea Water Fish | Ks/Viss | 533 | 533 | 533 | 490 | 513 |
| | 3 | Fresh Water Prawe | Ks/Viss | 2815 | 2815 | 2815 | 2640 | 2805 |
| | 4 | White Prawn | Ks/Viss | 3000 | 2968 | 2941 | 2800 | 3000 |
| | 5 | Tiger Prawn | Ks/Viss | 3318 | 3285 | 3195 | 3100 | 3300 |
| | 6 | Pink Prawn | Ks/Viss | 2410 | 2410 | 2460 | 2150 | 2319 |
| 3 | | **PURCHASE VALUE** | | | | | | |
| | 1 | Fresh Water Fish | Ks 000 | 187222 | 196583 | 205944 | 200284 | 215523 |
| | 2 | Sea Water Fish | Ks 000 | 82881 | 87025 | 91169 | 87624 | 95725 |
| | 3 | Fresh Water Prawe | Ks 000 | 80790 | 84830 | 88869 | 87133 | 96604 |
| | 4 | White Prawn | Ks 000 | 86100 | 90375 | 94700 | 92414 | 103320 |
| | 5 | Tiger Prawn | Ks 000 | 95226 | 100028 | 102879 | 102315 | 113652 |
| | 6 | Pink Prawn | Ks 000 | 80735 | 84771 | 90651 | 82828 | 93223 |
| | | **TOTAL AMOUNT IN KYATS** | | **612954** | **643612** | **674212** | **652598** | **718047** |
| | | **EQUIVALMENT IN KYATS** | | | | | | |

Note :- (1) Exchange Rate 1 US$ = Kyats 6.00




BUILDING LAYOUT PLAN

ဦးဝင်းလတ် B.E (Civil)
[illegible]
[illegible]
[illegible] (၂၁၁)
အမှတ် ၂၃၁ ([illegible]) ၂၉ လမ်း
ပန်းပဲတန်းမြို့နယ်

# MYANMAR KING FISH LIMITED.

## GOODS TO BE PRODUCED

Exhibit No. V

| Sr No. | | Particulars | Yield % | A/U | Year 1 | Year 2 | Year 3 | Year 4 | Year 5-10 |
|---|---|---|---|---|---|---|---|---|---|
| 1 | | **PRODUCTION QTY** | | | | | | | |
| | 1 | Fresh Water Fish | 79 | Ton | 280 | 294 | 308 | 322 | 336 |
| | 2 | Sea Water Fish | 79 | Ton | 200 | 210 | 220 | 230 | 240 |
| | 3 | Fresh Water Prawn | 64 | Ton | 30 | 31.5 | 33 | 34.5 | 36 |
| | 4 | White Prawn | 64 | Ton | 30 | 31.5 | 33 | 34.5 | 36 |
| | 5 | Tiger Prawn | 64 | Ton | 30 | 31.5 | 33 | 34.5 | 36 |
| | 6 | Pink Prawn | 64 | Ton | 35 | 36.75 | 38.5 | 40.25 | 42 |
| 2 | | **EXPORT SALE (PRICE)** | | | | | | | |
| | 1 | Fresh Water Fish | | US$/Ton | 1900 | 1900 | 1900 | 1960 | 2070 |
| | 2 | Sea Water Fish | | US$/Ton | 1600 | 1600 | 1600 | 1800 | 1850 |
| | 3 | Fresh Water Prawn | | US$/Ton | 16000 | 16000 | 16000 | 17500 | 18000 |
| | 4 | White Prawn | | US$/Ton | 15000 | 15000 | 15000 | 16500 | 17000 |
| | 5 | Tiger Prawn | | US$/Ton | 13000 | 13000 | 13000 | 15430 | 16000 |
| | 6 | Pink Prawn | | US$/Ton | 13000 | 13000 | 13000 | 14500 | 16000 |
| 3 | | **EXPORT SALE VALUE** | | | | | | | |
| | 1 | Fresh Water Fish | | US$ 000 | 532.00 | 558.60 | 585.20 | 631.22 | 695.52 |
| | 2 | Sea Water Fish | | US$ 000 | 320.00 | 336.00 | 352.00 | 414.00 | 444.00 |
| | 3 | Fresh Water Prawn | | US$ 000 | 480.00 | 504.00 | 528.00 | 603.75 | 648.00 |
| | 4 | White Prawn | | US$ 000 | 450.00 | 472.50 | 495.00 | 569.25 | 612.00 |
| | 5 | Tiger Prawn | | US$ 000 | 390.00 | 409.50 | 429.00 | 532.33 | 576.00 |
| | 6 | Pink Prawn | | US$ 000 | 455.00 | 477.75 | 500.50 | 583.60 | 672.00 |
| | | **TOTAL AMOUNT IN US$** | | | **2627.00** | **2758.35** | **2889.70** | **3334.15** | **3647.52** |
| | | **EQUIVALENT IN KYATS** | | | **15762.00** | **16550.10** | **17338.20** | **20004.90** | **21885.12** |

Note :- (1) Exchange Rate 1 US$ = Kyats 6.00

# MYANMAR KING FISH LIMITED

## LIST OF PERSONNEL REQUIREMENT

Exhibit No.VI

| Sr No. | Description | No. of Requirement |
|---|---|---|
| A | **LOCAL PERSONNEL** | |
| 1 | Administrative Manager | 1 |
| 2 | Financial Manager | 1 |
| 3 | Marketing Manager | 1 |
| 4 | Factory Manager | 1 |
| 5 | Office Staff | 6 |
| 6 | Engineer | 2 |
| 7 | Production Supervisor | 6 |
| 8 | Skill Workers | 15 |
| 9 | Semi-Skilled Workers | 30 |
| 10 | Un-Skilled Workers | 130 |
| 11 | Driver | 4 |
| 12 | Guard Man | 6 |
| | **Total** | **203** |
| B | **FOREIGN PERSONNEL** | |
| 1 | Technician | 2 |
| 2 | Engineer | 1 |
| | **Total** | **3** |
| | **Grand Total** | **206** |

Note :- Foreign Personnel ( 3 ) ဦးမှာ လစာပေးရန် မလိုပဲ Cold Storage စက်များ တပ်ဆင်ရန်အတွက် စေလွှတ်မည့်သူများ ဖြစ်ပါသည်။
လစာ စရိတ် ကျခံရန် မလိုပါ။

# MYANMAR KING FISH LIMITED.

## PARTICULAR RELATING TO ECONOMIC JUSTIFICATION

PROFIT & LOSS BUDGET IN THOUSAND (000)

Exhibit No. VII

| Sr No | | Particulars | Year 1 | | | Year 2 | | | Year 3 | | | Year 4 | | | Year 5-10 | | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | | US $ | Kyats | Equ: Ks. | US $ | Kyats | Equ: Ks. | US $ | Kyats | Equ: Ks. | US $ | Kyats | Equ: Ks. | US $ | Kyats | Equ: Ks. |
| 1 | | SALE INCOME | | | | | | | | | | | | | | | |
| | 1 | US $ Sale | 2627.00 | | 15762.00 | 2758.35 | | 16550.10 | 2889.70 | | 17338.20 | 3334.15 | | 20004.90 | 3647.52 | | 21885.12 |
| | 2 | Kyats Sale | | | | | | | | | | | | | | | |
| | | Sub-Total | 2627.00 | | 15762.00 | 2758.35 | | 16550.10 | 2889.70 | | 17338.20 | 3334.15 | | 20004.90 | 3647.52 | | 21885.12 |
| 2 | | COST OF PRODUCTS | | | | | | | | | | | | | | | |
| | 1 | Raw Materials In US$ | | | | | | | | | | | | | | | |
| | 2 | Raw Materials In Kyats | | 612954.00 | 612954.00 | | 643612.00 | 643612.00 | | 674212.00 | 674212.00 | | 652598.00 | 652598.00 | | 718047.00 | 718047.00 |
| | | Sub-Total | | 612954.00 | 612954.00 | | 643612.00 | 643612.00 | | 674212.00 | 674212.00 | | 652598.00 | 652598.00 | | 718047.00 | 718047.00 |
| | | Gross Profit | 2627.00 | -612954.00 | -597192.00 | 2758.35 | -643612.00 | -627061.90 | 2889.70 | -674212.00 | -656873.80 | 3334.15 | -652598.00 | -632593.10 | 3647.52 | -718047.00 | -696161.88 |
| 3 | | EXPENDITURES | | | | | | | | | | | | | | | |
| | 1 | Salary & Wages | | 5000.00 | 5000.00 | | 5150.00 | 5150.00 | | 5300.00 | 5300.00 | | 5450.00 | 5450.00 | | 5600.00 | 5600.00 |
| | 2 | Electricity & Power | 60.00 | 3000.00 | 3360.00 | 62.00 | 3100.00 | 3472.00 | 64.00 | 3200.00 | 3584.00 | 66.00 | 3300.00 | 3696.00 | 68.00 | 3400.00 | 3808.00 |
| | 3 | Selling Expenses | 30.00 | 2000.00 | 2180.00 | 31.00 | 2060.00 | 2246.00 | 32.00 | 2120.00 | 2312.00 | 33.00 | 2180.00 | 2378.00 | 34.00 | 2240.00 | 2444.00 |
| | 4 | Repair & Maintenance | 50.00 | 2002.00 | 2302.00 | 51.50 | 939.00 | 1248.00 | 53.00 | 1101.00 | 1419.00 | 54.50 | 1151.00 | 1478.00 | 56.00 | 1201.00 | 1537.00 |
| | 5 | Other Expenditure | 20.00 | 2100.00 | 2220.00 | 21.00 | 2200.00 | 2326.00 | 22.00 | 2300.00 | 2432.00 | 23.00 | 2400.00 | 2538.00 | 24.00 | 2500.00 | 2644.00 |
| | 6 | Interest On DPPV | 6.25 | | 37.50 | 4.69 | | 28.14 | 3.12 | | 18.72 | 1.56 | | 9.36 | | | |
| | 7 | Depreciation | | 3720.00 | 3720.00 | | 3720.00 | 3720.00 | | 3720.00 | 3720.00 | | 3720.00 | 3720.00 | | 3720.00 | 3720.00 |
| | 8 | Commercial Tax | 262.70 | | 1576.20 | 275.83 | | 1665.04 | 288.97 | | 1733.82 | 333.41 | | 2000.46 | 364.75 | | 2188.50 |
| | | Sub-Total | 428.95 | 17822.00 | 20395.70 | 446.02 | 17169.00 | 19855.18 | 463.09 | 17741.00 | 20519.54 | 511.47 | 18201.00 | 21269.82 | 546.75 | 18661.00 | 21941.50 |
| | | Net Profit | 2198.05 | -630776.00 | -617587.70 | 2312.33 | -660781.00 | -646917.08 | 2426.61 | -691953.00 | -677393.34 | 2822.68 | -670799.00 | -653862.92 | 3100.77 | -736708.00 | -718103.38 |
| | | Income Tax | | | | | | | | | | 423.40 | | 2540.40 | 465.11 | | 2790.66 |
| | | Total Net Profit | 2198.05 | -630776.00 | -617587.70 | 2312.33 | -660781.00 | -646917.08 | 2426.61 | -691953.00 | -677393.34 | 2399.28 | -670799.00 | -656403.32 | 2635.66 | -736708.00 | -720894.04 |

Note (1) Exchange Rate 1US$ = Kyats 6.00 (2) Interest on DPPV (Deferred Payment Purchase Value) is 5 % per annum
(3) Commercial Tax is calculated at 10 % for US $ Sale (4) Income Tax is calculated at 15% for US $ Income.

# MYANMAR KING FISH LIMITED.

## CAPITAL COST

(Kyats in Thousand) Exhibit No. VIII

| Sr No | Particular | Equity | Loan | Total |
|---|---|---|---|---|
| 1 | 2 | 3 | 4 | 5 |
| 1 | **Investment Type.** | | | |
| A | **LOCAL CAPITAL** | | | |
| 1 | In Cash | 20,000.00 | | 20,000.00 |
| 2 | In Land | 13,200.00 | | 13,200.00 |
| 3 | In Building | 15,500.00 | | 15,500.00 |
| 4 | In Machineries & Equipment (Local) | 20,950.00 | | 20,950.00 |
| 5 | In Machineries & Equipment (Deferred) | | 750.00 | 750.00 |
| | (US $ 125000) | | | |
| | TOTAL CAPITAL | 69,650.00 | 750.00 | 70,400.00 |

Note : Loan 750,000 Kyats is Equivalent in US $ 125,000 for the value of Machineries and Equipment which purchased by the Deferred Payment System.

# MYANMAR KING FISH LIMITED.

## FOREIGN EXCHANGE SAVING & LOCAL KYAT SAVING

Exhibit No.IX

| PARTICULARS | UNIT | Year-1 | Year-2 | Year-3 | Year-4 | Year-5-10 |
|---|---|---|---|---|---|---|
| Income In US $ | US$ 000 | 2627.00 | 2758.35 | 2889.70 | 3334.15 | 3647.52 |
| Equivalent In Kyats | Ks 000 | 15762.00 | 16550.10 | 17338.20 | 20004.90 | 21885.12 |
| Local Sale In Kyats | Ks 000 | Nil | Nil | Nil | Nil | Nil |
| **Total Income In Kyats** | **Ks 000** | **15762.00** | **16550.10** | **17338.20** | **20004.90** | **21885.12** |
| **FOREIGN EXCHANGE SAVINGS** | | | | | | |
| Earning In US $ | US$ 000 | 2627.00 | 2758.35 | 2889.70 | 3334.15 | 3647.52 |
| Expenditure in F.E | US$ 000 | 166.25 | 170.19 | 174.12 | 178.06 | 182.00 |
| Repayment for DPPV | US$ 000 | 31.25 | 31.25 | 31.25 | 31.25 | |
| **Total Expenditure in F.E** | US$ 000 | 197.50 | 201.44 | 205.37 | 209.31 | 182.00 |
| **F.E Net Saving** | US$ 000 | 2429.50 | 2556.91 | 2684.33 | 3124.84 | 3465.52 |
| **LOCAL KYAT SAVINGS** | | | | | | |
| Earning From Local Sales | Ks 000 | Nil | Nil | Nil | Nil | Nil |
| Cost Of Products in Kyats | Ks 000 | 613956.00 | 643501.00 | 674213.00 | 652599.00 | 718048.00 |
| Expenditure in Kyats | Ks 000 | 16820.00 | 17280.00 | 17740.00 | 18200.00 | 18660.00 |
| | Ks 000 | 630776.00 | 660781.00 | 691953.00 | 670799.00 | 736708.00 |
| **Local Kyats Net Saving** | Ks 000 | **-630776.00** | **-660781.00** | **-691953.00** | **-670799.00** | **-736708.00** |

Note: ( 1 ) Exchange Rate 1 US $ = Kyat 6.00

( 2 ) DPPV Deferred Payment Purchase Value.

အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE LABEL
နှစ်ရာကျပ်
TWO HUNDRED KYATS

အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE LABEL
နှစ်ရာကျပ်
TWO HUNDRED KYATS

# မြေငှားစာချုပ်

16 JUN 2000

16 JUN 2000

ရှင်း

ခုနှစ် ၂၀၀၀ ခုနှစ်၊ (မြေငှား) အမှုတွဲ အမှတ် ၇ပသ(မောင်မှု)(မြေ)၂၀/၂၀၀၀ အရ ထုတ်ပေးသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ"ဟု ရည်ညွှန်းသည်။ "အငှားချထားသူ"ဆိုသည့်စကားရပ်တွင် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။ )

"စက်မှုဇုန်ကိုမှတ်ပုံတင်ပြီး"

နှင့် ရန်ကုန် မြို့နေ၊ ဦး ______________ ၏ သား/သမီး ဖြစ်သော

ဦး မြန်မာငါးဘ ကုန်သည် လီမိတက် အမျိုးသားမှတ်ပုံတင်အမှတ် ၁၅၅၆ / ၁၉၉၉-၂၀၀၀ (နောက်တွင် "အငှားစာချုပ်ရသူ" ဒေါ်

ဟု ရည်ညွှန်းသည်။ ) တို့၊ ၁၃ ၆၂ ခုနှစ်၊ နယုန် လဆန်း/လပြည့်ကျော် ၁၅ ရက်နေ့၊ ခရစ် ၂၀၀၀ ခုနှစ်၊

( ဇွန် လ ၁၆ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်–ချုပ်ဆိုကြသည်။

အငှား စာချုပ်သူက–နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြ‌ထားသော မြေကွက် အားလုံးကိုထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်–ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြား အခွင့်အရေးများနှင့်တကွအငှားချထားသူက အငှားစာချုပ်ရသူအား၊ ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ ဓာတ်သတ္တုပစ္စည်းများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကွာရီ (Quarries) စသည်တို့သည်ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကို နောက်ယှက်ပျက်စီးစေခဲ့လျှင်၊ အငှားစာချုပ်ရသူအားသင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းဖြစ်ပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ၏ သို့တည်းမဟုတ် ‌ဆိုင်ရာ နည်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့်အညီပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ်–ချုပ်ဆိုသည့် ၁၆·၆·၂၀၀၀ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြား အတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ၂၀၆၀ ခုနှစ် ဇွန် လ ၁၅ ရက်နေ့၌၊ ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် ၁၈၀၀၀ ပြား -
( [illegible] ) တိတိကို ဇန်နဝါရီလ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဇန်နဝါရီလ ၁–ရက်နေ့တွင် လည်းကောင်း၊ ဧပြီလ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဧပြီ ၁–ရက် နေ့တွင် လည်းကောင်း၊ ဇူလိုင်လ –၁ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇူလိုင်လ ၁–ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁–ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁–ရက်နေ့တွင်လည်းကောင်း ကြိုတင် ပေးဆောင်ရမည်။ အဆိုပါနှစ်ခြောက်ဆယ်ကာလ အပိုင်းအခြား၏ ဒုတိယတဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊စတုတ္ထတစ်ဆယ့် ငါးနှစ်အတွက်အပိုဒ်၃–တွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း အငှားချထားသူအားသတ်မှတ်သည့်မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင် ရမည်။

စက်မှုဇုန်များ ဦးစီးဌာန ညွှန်ကြားချက်အမှတ် ၁/၉၇ ကို လိုက်နာရမည်။

၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်ထားသည့် နေ့ရက်များတွင် သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အဆိုပါမြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံပေါ်၌သော်လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း အဆိုပါ နှစ်ခြောက်ဆယ့် ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ စည်းကြပ်လတ္တံ့ ဖြစ်သော အခွန်အတုတ်အားလုံးကို ပေးဆောင်ရန်။

(ခ) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ၆-လအတွင်း စတင်ဆောက်လုပ်၍ နှစ်နှစ်အတွင်း အဆိုပါမြေကွက်ပေါ်၌ ကောင်းမွန်ခိုင်ခံ့သော လူနေအိမ်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေများနှင့် အညီ ပြီးစီးအောင်ဆောက်လုပ်ရန်နှင့် ထိုလူနေအိမ်စသည်တို့ကို အဆိုပါနှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန်။ အဆောက်အဦး

(ဂ) အဆိုပါမြေကွက် တည်ရှိသော ရပ်ကွက်၌ သက်ဆိုင်ရာဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်နှင့် ရေပိုက်များ ချထားလျှင်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ်၌ ဆောက်လုပ်ထားသော အဆောက်အအုံများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။ အဆောက်အဦး

(ဃ) သက်ဆိုင်သော ဒေသန္တရအာဏာပိုင်က ခွင့်ပြုသော အဆောင်ခွဲနှင့် အလုပ်သမားတန်းလျားများမှအပ အဆိုပါမြေကွက်ပေါ်၌ အဆောက်အအုံတစ်ခုထက်ပို၍ မဆောက်လုပ်ရန်။

(င) အငှားချထားသူ၏ စာဖြင့် သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြားအတွင်းအဆိုပါ မြေကွက်ကို လူနေအိမ်ဆောက်လုပ်ရန်အတွက် မှတစ်ပါး၊ အခြားကိစ္စအတွက် အသုံးပြုရန်နှင့် အဆိုပါ မြေကွက်ပေါ်တွင် ဆောက်လုပ်သည့် လူနေအိမ်ကို လူနေအိမ်အဖြစ်မှ တစ်ပါး အခြားကိစ္စအတွက် အသုံးမပြုရန်။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ၊ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်ပြင် ၎င်းမြေ တစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများမပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့်စပ်လျဉ်း၍ မည်သည့်ကိစ္စအတွက်မဆို၊ အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသောအဆောက်အအုံသို့ဖြစ်စေ၊နှစ်ပေါင်း ခြောက်ဆယ်ကာလအပိုင်းအခြားတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ခင်းသင့်တော်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါမြေကွက်တည်ရှိသည့် အဆောက်အအုံ၊ထိုအဆောက်အအုံနှင့် အမြဲတွဲကပ်ထားသော ပစ္စည်းမပါဝင်စေဘဲ၊အဆိုပါမြေကွက်ကို အငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန်။ သို့ရာတွင် အငှားချထားသူက အပိုဒ် ၂-အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသောပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန်။

## အပိုပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ခ၁၉၉၉ခုနှစ် အတွင်းတွင် ဖြစ်စေ ထိုနောက် အချိန်ကာလတွင် ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည်။

၂။ အဆိုပါ မြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက် မြေငှားခကို သို့တည်းမဟုတ် ၎င်း၏ အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယလ ဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခ မပြေကျန်ရှိလျှင် သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များ အတိုင်း လိုက်နာဆောင်ရွက် ရန် ပျက်ကွက်လျှင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်သည် အဆိုပါ မြေငှားခကို ရယူရန် ချက်ချင်း အမှုဖွင့်နိုင်သည်။ ထို့ပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ်ခံ ချက်ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကို ဖြစ်စေ၊အဆိုပါမြေကွက်ပြန်လည်သိမ်းယူနိုင်ခွင့်ကိုဖြစ်စေ စွန့်လွှတ်ခဲ့စေကာမူ ဤစာချုပ်ကို ပယ်ဖျက်၍အဆိုပါ မြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံများ၊ ထိုဆောက်အအုံများနှင့် အမြဲကွယ် ကပ်ထားသော ပစ္စည်းများကို သိမ်းယူနိုင်သည်။

စက်ရုံလုပ်ငန်းမှ [illegible]
လည်းကောင်း၊ [illegible] ဆောင်[illegible]
ထိခိုက်မှုရှိကြောင်းစိစစ်[illegible]
**ဝေါ်တွင်ထည်ရှိသော** အဆောက်အအုံ[illegible]သိမ်းယူနိုင်သည်။

ညွှန်ကြားရေးမှူးချုပ်

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂-အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့်နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်းပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပေးကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ဖျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည်သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်းတစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများ သို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊ အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ ရွာနှင့်အိုးအိမ်ဖွံ့ ဖြိုးရေး ဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂-အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ်ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၂၀၁၅ ) ခုနှစ်၊ ဩဂုတ် လ၊ ( ၁၅ )ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံးသည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄-အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေးဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေးဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်းသုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း၊အဆိုပါ ပထမနှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြားရမည်။ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှခြောက်လအတွင်းနောင်နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို အငှားစာချုပ်ရသူကပေးဆောင်ရန်။

ဤစာချုပ်ပါစကားရပ်များကို သိရှိနားလည်ကြပြီးဖြစ်သဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးတို့ရှေ့တွင် ဦးစီးဌာနတံဆိပ်ကိုခပ်နှိပ်၍ အဆိုပါညွှန်ကြားရေးမှူးချုပ်နှင့်အဆိုပါ မြန်မာငါးဘုံလီမိတက် သည် ဤစာချုပ်ကိုအထက်၌ ဖော်ပြခဲ့သည့်နေ့တွင် လက်မှတ် ရေးထိုးကြကြောင်း။

မြေ

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန

မြို့-ဂုံးအုပ်

တံဆိပ်ကို ညွှန်ကြားရေးမှူးချုပ် **ဦးအုံးကျော်** တံဆိပ် ညွှန်ကြားရေးမှူးချုပ်

ဒုတိယညွှန်ကြားရေးမှူးချုပ် ဗိုလ်မှူးကြီး တင်ထွန်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်

နှင့် ညွှန်ကြားရေးမှူး ဒုတိယဗိုလ်မှူးကြီး ထင်အောင်ကျော် တို့

ရှေ့မှောက်၌ ခပ်နှိပ်၍ အဆိုပါ
ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့်
ညွှန်ကြားရေးမှူးတို့လက်မှတ် ရေးထိုးသည်။

ညွှန်ကြားရေးမှူး

**အသိသက်သေ။**

ဒုတိယညွှန်ကြားရေးမှူး (မြေနှင့်အခွန်) **ဦးကျော်စိုး**

အငှားစာချုပ်ရသူ မြန်မာငါးဘုံလီမိတက် က
လက်မှတ်ရေးထိုးသည်။

အငှားစာချုပ်ရသူ

ယသိသက်သေ။

၁။ [illegible] ၁၃/အလန(နိုင်)၁၁၃၄၅၉၉ . အမှတ်(၁၄၆)- ၄၈.လမ်း. [illegible]

၂။

သက်သေ ညွှန်ကြားရေးမှူး
မြေနှင့်အခွန်ဌာန အထက်တွင် ရည်ညွှန်းထားသည့် ဇယား

ခွင့်ပြုပြီးမြေပုံဖြစ်သော လူနေရပ်ကွက်အမှတ်
မြေတိုင်းရပ်ကွက်အမှတ် ၆၄ (ခတ်မှတ်စု ၁၁)
ရန်ကုန်မြို့ လှိုင်သာယာ မြို့နယ်။
အတွင်းရှိ တန်းစား၊ မြေကွက်အမှတ် ၄
ဖြစ်သည်။ ပူးတွဲပါ မြေပုံ၌ မင်နီဖြင့် ပြထားသော အလျား ၁၀၄ ပေ၊ အနံ ၃၅၁ ပေခန့်ရှိသော အလား အလာ
အရှေ့လားသော် မြေကွက်အမှတ် ၁၁ ၃၆၀
အနောက်လားသော် လမ်း
တောင်လားသော် လမ်း
မြောက်လားသော် မြေကွက်အမှတ် ၃
အကျယ်ရှိ မြေအားလုံး ဧရိယာ ၁.၅၉၉ ဧက၊ (စတုရန်းပေ ၇၃၅၉၉၁ )

KF

မြန်မာ ငါးဘုရင် လီမိတက်

MYANMAR KING FISH LIMITED

Head Office:
No. 77, Nguwa St, Ahlone Twsp.
Yangon, Myanmar.
Tel : 95-1-229819
Fax : 95-1-222921
E-Mail : ukk@mptmail.net.mm

သို့

အထူးအရာရှိ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

ရက်စွဲ။ ၂၀၀၁ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၂၃ ) ရက်။

အကြောင်းအရာ ။ ။ <u>မြန်မာ့ငါးဘုရင်လီမိတက်၏ ငါး၊ ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်းနှင့် အအေးခန်းစက်ရုံ တည်ဆောက်ခြင်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းအတွက် ရေညစ်သန့်စင်မှု အစီအစဉ်အား တင်ပြခြင်း။</u>

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ "မြန်မာ့ငါးဘုရင်လီမိတက်" (Myanmar King Fish Ltd) သည် ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄) စက်မှုဒေသအကွက်အမှတ် (၄) ရှိ (၁. ၆၉) ဧကကျယ်ဝန်းသော မြေနေရာတွင် ငါး၊ ပုဇွန် ပြုပြင်ထုတ်လုပ်ခြင်းနှင့် အအေးခန်းစက်ရုံ တည်ဆောက်ခြင်း ဆောင်ရွက်ရန် မြန်မာ့နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ (၂၀. ၉. ၂၀၀၀) ရက်စွဲပါစာဖြင့် အဆိုပြုတင်ပြခဲ့ပါသည်။

၂။ ယခုအချိန်တွင် လုပ်ငန်းစတင်ဆောင်ရွက်မည့် မြေနေရာမှာ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေး အတွက် လုပ်ငန်းစီစဉ်ထားရှိမှုနှင့် (Waste Water Treatment Plant) တပ်ဆင်ခြင်း၊ စီစဉ်ထားရှိမှုအတွက် ကုန်ကျစရိတ်များ အသေးစိတ်ပြင်ဆင် တွက်ချက်မှုများ ဆောင်ရွက်လျက်ရှိပါသည်။

၃။ သို့ဖြစ်ပါ၍၊ မြန်မာ့ငါးဘုရင်လီမိတက်၏ ငါး၊ ပုဇွန် ပြုပြင်ထုတ်လုပ်ခြင်းနှင့် အအေးခန်းစက်ရုံ တည်ဆောက်ခြင်းတွင် ပါဝင်မည့် ရေညစ်သန့်စင်မှု အစီအစဉ်အား ပူးတွဲတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

Khin Kyaw
Managing Director

<u>မိတ္တူကို</u>

- <u>ညွှန်ကြားရေးမှူးချုပ်</u>
- <u>မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန</u>

KF

မြန်မာ ငါးဘုရင် လီမိတက်
MYANMAR KING FISH LIMITED

Head Office:
No. 77, Nguwa St, Ahlone Twsp.
Yangon, Myanmar.
Tel : 95-1-229819
Fax : 95-1-222921
E-Mail : ukk@mptmail.net.mm

## မြန်မာငါးဘုရင်လီမိတက်၏ ရေညစ်သန့်စင်မှုစနစ် အစီအစဉ်အားတင်ပြခြင်း

ဤကုမ္ပဏီလီမိတက်၏ ငါး၊ ပုဇွန်ပြုပြင် ထုတ်လုပ်ခြင်းနှင့် အအေးခန်းစက်ရုံမှ ထွက်ရှိလာမည့် ရေညစ် တစ်နေ့ဂါလံ (၆၆၀၀) မှ (၈၈၀၀)ထိအား ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်စေရန် အောက်ပါအစီအစဉ် အတိုင်း ဆောင်ရွက်မည်ဖြစ်ပါသည်။

၁။ စက်ရုံမှ ထွက်ရှိလာမည့် ရေညစ်များတွင်ပါဝင်သော ငါး၊ ပုဇွန်အခွံများ၊ အစအနများ၊ လက်ရိုးများ အား ဇကာဖြင့် အဆင့်ဆင့်စစ်၍ ဖယ်ထုတ်ပါမည်။ ယင်းသို့ ဖယ်ထုတ်ရရှိသော ငါး၊ ပုဇွန်အစအနများအား စနစ်တကျ ထုပ်ပိုးခြင်း၊ သယ်ယူခြင်း၊ ဖျက်ဆီး စွန့်ပစ်ခြင်းများ ပြုလုပ်မည်ဖြစ်ပါသည်။ ယင်းသို့ ပြုလုပ်ခြင်းဖြင့် လေနှင့်ရေညစ်ညမ်းမှုကို ထိရောက်စွာ ပဏာမအနေဖြင့် ကာကွယ်ပေးနိုင်ပါမည်။

၂။ အပိုဒ် (၁)ပါအတိုင်း ငါး၊ ပုဇွန်အစအနများအား ဇကာဖြင့် အဆင့်ဆင့် စစ်ပြီးနောက် ကျန်ရှိသည့် ရေညစ်ကို ရေညစ်သန့်စင်မှု (Waste Water Treatment) စနစ်အသုံးပြုပြီး သန့်စင်စေပါမည်။ ရေညစ်သန့်စင်မှု (Waste Water Treatment) စနစ်တွင် ပါဝင်သော အဆင့်များမှာ ရေညစ်ထိန်းကန် (Equalising Tank,)၊ ပဏာမ ရေညစ်သန့်စင်ကန် (Anaerobic Treatment Tank)၊ လေဖြင့် တွေ့ထိသန့်စင်ကန် (Aeration Tank) နှင့် အနယ်များ အခြောက်ခံသည့်ကန် (Sludge Drying Bed) တို့ဖြစ်ပါသည်။

၃။ ရေညစ်သန့်စင်မှုစနစ်အဆင့်ဆင့်မှာ စက်ရုံမှရေညစ်များထုတ်သည့် နောက်ဆုံးလူဝင်ပေါက် (Last Man Hole) မှတဆင့် ရေညစ်ထိန်းကန် (Equalising Tank) သို့ ဝင်စေပါမည်။ ၎င်းမှတဆင့် ပဏာမရေညစ်သန့်စင်ကန် (Anaerobic Treatment Tank) သို့ ပို့ပေးပါမည်။ ရေညစ်ကို တသမတ်နှုန်းဖြင့် ပေးပို့နိုင်ရန် အနယ်စုပ်ပန့် (Certrifugal Pump) ကို အသုံးပြုထားပါသည်။ ပဏာမသန့်စင်ကန်မှ ထွက်လာသော ရေညစ်ကို လေဖြင့်တွေ့ထိ စေသောကန် (Aeration Tank) သို့ပို့၍ သန့်စင်စေပါသည်။ ဆက်လက်၍ အနယ်ထိုင်ကန် (Clarifier,) တွင် အနယ်ထိုင်စေခြင်းဖြင့် ရေထုညစ်ညမ်းမှုကို မဖြစ်နိုင်သော အရည်ကြည်ကိုသာ ရရှိလာပါမည်။ ၎င်းအရည်ကြည်ကို ရေထုတ်မြောင်းမှ တကူးခြံချောင်းလက်တက်၊ တကူးခြံချောင်းတို့မှ အဆင့်ဆင့်ဖြတ်၍ လှိုင်မြစ်တွင်းသို့ စွန့်ထုတ်ပါမည်။ အနယ်ထိုင်ကန် (Clarifier) မှ အနယ် အချို့ကို လေဖြင့် တွေ့ထိသန့်စင်ကန် ( Aeration Tank) သို့ ပြန်ပို့ပါမည်။ ကျန်အနယ်များအား အခြောက်ခံသည့်ကန် (Sludge Drying Bed)သို့ပို့၍ အခြောက်ခံစေပါမည်။ ၎င်းမှထွက်လာသော ရေထုညစ်ညမ်းမှုကို မဖြစ်နိုင်သော အရည်ကြည်ကိုသာ ရရှိလာပါမည်။ ၎င်းအရည်ကြည်ကို ရေထုတ်မြောင်းမှ တကူးခြံချောင်းလက်တက်၊ တကူးခြံချောင်းတို့ မှအဆင့်ဆင့်ဖြတ်၍ လှိုင်မြစ်အတွင်းသို့ စွန့်ထုတ်ပါမည်။

KF

မြန်မာ ငါးဘုရင် လီမိတက်
MYANMAR KING FISH LIMITED

Head Office:
No. 77, Nguwa St, Ahlone Twsp
Yangon, Myanmar.
Tel : 95-1-229819
Fax : 95-1-222921
E-Mail : ukk@mptmail.net.mm



၄။ Gravity ကို အသုံးပြုခြင်း၊ စက်ပစ္စည်းအနဲဆုံး အသုံးပြုခြင်းတို့ဖြင့် ပုံစံပြုထားပါသည်။ (Centrifugal Pump)(၃)စုံနှင့် (Surface Aerator)(၁)စုံတို့ ပါဝင်သောအဓိက စက်ပစ္စည်းများ အသုံးပြုမည်ဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍၊ မြန်မာ့ငါးဘုရင်လီမိတက်၏ ငါး၊ ပုဇွန် ပြုပြင်ထုတ်လုပ်ခြင်းနှင့် အအေးခန်းစက်ရုံ တည်ဆောက်ခြင်းတွင်ပါဝင်မည့် ရေညစ်သန့်စင်မှုစနစ် အစီအစဉ်အား အောက်ဖော်ပြပါဇယား များဖြစ်ကြသော

(က) ရေညစ်သန့်စင်မှုစနစ် အစီအစဉ်၊ (Flow Sheet) ကို ပူးတွဲပါဇယား (၁)ဖြင့်ရှင်း

(ခ) ရေညစ်သန့်စင်မှုစနစ် အစီအစဉ်တွင်ပါ (Surface Aerator Sheet) ကို ပူးတွဲပါဇယား (၂)ဖြင့် ရှင်း။

(ဂ) ရေညစ်သန့်စင်မှုစနစ် အစီအစဉ်အတွက် ခန့်မှန်းအသေးစိတ် ကုန်ကျစရိတ် (Cost Estimation) ရှင်းတမ်းကို ပူးတွဲပါဇယား (၃)ဖြင့်ရှင်း။

(ဃ) မြန်မာ့ငါးဘုရင်လီမိတက် တည်ရှိရာ ရွှေပြည်သာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄) စက်မှုဒေသ အကွက်အမှတ် (၄) မြေပုံကို ပူးတွဲပါဇယား (၄)ဖြင့်ရှင်း။

(င) ရေညစ်သန့်စင်မှုစနစ် အစီအစဉ်အရ ရေထုညစ်ညမ်းမှုကို မဖြစ်နိုင်သော အရည်ကြည်ကို ရေထုတ် မြောင်းမှ တကူခြံချောင်းလက်တက်၊ တကူခြံချောင်းတို့မှ အဆင့်ဆင့်ဖြတ်၍ လှိုင်မြစ်တွင်းသို့ စွန့်ထုတ်ခြင်းကိုပြသော မြေပုံကို ပူးတွဲပါဇယား (၅) ဖြင့်ရှင်း

စုစုပေါင်းဇယား (၅)ခုဖြင့် ပူးတွဲတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

Khin Kyaw
Managing Director

KF

မြန်မာ ငါးဘုရင် လီမိတက်

MYANMAR KING FISH LIMITED

**Head Office**
No. 4/64, Industrial Zone(3),
Min Gyi Maha Min Gaung St,
Shwepyithar Township.,
Yangon, Myanmar.
Tel : 95-1-724240, 726527
Fax : 95-1-222921
E-Mail : ukk@mptmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်-ငဘရ/အခ-၁၃က/၀၃ (၀၀၈)။
ရက်စွဲ-၂၀၀၃ ခုနှစ်၊ဇူလိုင်လ ( ၈ ) ရက်။

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့်ပြုမိန့်မူရင်းအားပေးပို့ခြင်း။</u>

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃.၇.၂၀၀၃ ရက်စွဲပါစာအမှတ်-ရက-၇/မ-၁၃၃/၂၀၀၃ (၁၃၇၁)။

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာအရ ရင်းနှီးမြှုပ်နှံသူအမည် ပြောင်းလဲရန်အတွက် မြန်မာငါးဘုရင်လီမိတက်၏ ခွင့်ပြုမိန့်မူရင်းအား ပူးတွဲပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

WIN AUNG
MANAGING DIRECTOR
MYANMAR KING FISH LIMITED.

၄။ ထို့ပြင် စီပါ၍ လုပ်ငန်း၏ ရင်း နှီး မြှုပ်နှံမှုအား ခြေအနေမှာ အောက်ပါ အတိုင်း ပြောင်း လဲသွား မည်ဖြစ်ပါသည်။

( ကျပ် ထောင် ပေါင်း )

| စဉ် | အကြောင်း အရာ | မူလ အတိုပြု | ပြင်ဆင် အဆိုပြု | တိုးမြှင့်/လျော့ နည်းရင်းနှီးမြှုပ်နှံသူ |
|---|---|---|---|---|
| ၁။ | ငွေပမာဏ | ၂၀၀၀၀ | ၂၀၀၀၀ | - |
| ၂။ | မြေ | ၁၃၂၀၀ | ၁၃၂၀၀ | - |
| ၃။ | အဆောက်အဦ | ၁၅၅၀၀ | ၁၅၅၀၀ | |
| ၄။ | စက်ပစ္စည်း | | | |
| | - ပြည်ပဝယ် | ၉၅[illegible] (US$၁၂၅) | ( - ) | ( - ၉၅[illegible] ) (US$ ၁၂၅) |
| | - ပြည်တွင်း ဝယ် | ၂၀၆၅၀ | ၈၃၁၇၂ | (+) ၉၂၂၃၂ |
| | စုစုပေါင်း | ၉၀၄၀၀ | ၁၄၁၀၇၂ | ၉၁၄၇၂ |

၅။ အအေး ခန်း[illegible]က်ရုံတည် ဆောက်မှုမှာ ၁၆၀ % ပြီး စီး နေပြီဖြစ်ပြီး မူလခွင့်ပြုတည် ဆောက်မှုကာလ ( ၆ ) လမှာ (၃၀-၁၁-၂၀၀၁) နေ့တွင်ကုန်ဆုံး သွား ပြီဖြစ် ကြောင်း တင်ပြထား ပါသည်။

၆။ ထို့ပြင် စီပါ၍ မြန်မာ ငါး ဘာရင်လီမိတက်မှ မူလရင်း နှီး မြှုပ်နှံမှုအား မေရိ ကန် ဒေါ်လာ ( ၀.၁၂၅ ) သန်း အပါအဝင် ကျပ် ( ၉၀.၄[illegible] ) သန်း[illegible] ပြည်တွင်း မှ စက်ပစ္စည်း များ ဝယ်ယူခဲ့သဖြင့် ကျပ် ( ၁၄၁.၀၇၂ ) သန်းသို့ ပြောင်း လဲရင်း နှီး မြှုပ်နှံ ခွင့်ပြုရန်တင်ပြ ချက်အား ပေါ်လစီ ညွှန်မှုပြုနိုင်ပါရန်တင်ပြအပ်ပါသည်။

ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း
မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်
ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

မြန်မာ ငါးဘုရင် လီမိတက်

❁❁❁❁❁❁❁❁❁❁

**PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR**

**MYANMAR KING FISH LIMITED.**

ဇယား (၂)

# မြန်မာ့ငါးဘုရင်လီမိတက်

## ရေညစ်သန့်စင်မှုစနစ်အစီအစဉ်

## SURFACE AERATOR SHEET




SIDE VIEW

DETAIL OF MOTOR, PULLEY AND SURFACE AERATOR

| | | |
|---|---|---|
| Thant Syn Co., Ltd<br>282/4, Seik Kan Tha Street, Yangon,<br>Ph : 89332 | | scale :<br>date : |
| title<br>Waste Water Treatment Plant<br>Surface Aerator | project<br>Myanmar King Fish Ltd<br>Processing and Cold Storage Factory | drg : no |

ဇယား (၃)

**မြန်မာ့ငါးဘုရင်လီမိတက်**
**ရေညစ်သန့်စင်မှုစနစ်အစီအစဉ်**
**ခန့်မှန်းအသေးစိတ်ကုန်ကျစရိတ်ရှင်းတမ်း**

## MYANMAR KING FISH LIMITED
## COST ESTIMATION FOR WASTE WATER TREATMENT SYSTEM

| | | Kyats | Kyats |
|---|---|---|---|
| 1. | **Civil Works** | | |
| (1.1) | Equalising Tank | 250,000 | |
| (1.2) | Anaerobic Treatment Tank | 450,000 | |
| (1.3) | Aerator Tank | 400,000 | |
| (1.4) | Clarifier | 350,000 | |
| (1.5) | Sludge Drying Bed | 350,000 | |
| (1.6) | PVC Pipes, Fittings & Valves, etc | 100,000 | 1900000 |
| 2. | **Machineries & Equipments (Local Purchase)** | | |
| (2.1) | Motor & Pumps (3) complete sets | 300,000 | |
| | 5.5 HP, 3 ph Motor | | |
| | 3" Centrifugal Pump, Head 30' | | |
| (2.2) | Surface Aerator & Float (1) complete set | 472,000 | 772,000 |
| 3. | **Total Cost Estimation** | | 2672000 |

ကော်မရှင်၏ ၃၉/၂၀၀၀ အစည်းအဝေး

အကြောင်းအရာ ။ ။ မြန်မာ ငါးဘုရင်လီမိတက်၏ ငါး၊ ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်းနှင့် အအေးခန်းစက်ရုံတည်ဆောက်ခြင်း ဆောင်ရွက်ရန်အဆိုပြု တင်ပြခြင်းကိစ္စ ။

၁။ မြန်မာ ငါးဘုရင်လီမိတက်မှ ရန်ကုန်တိုင်း ၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်၊ မြေကွက်အမှတ် (၆၄)၊ မြေကွက်အမှတ် (၄) ၌ ငါး၊ ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်းနှင့် အအေးခန်းစက်ရုံတည်ဆောက်ခြင်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခဲ့ပါသည်။ ဆောင်ရွက်မည့်လုပ်ငန်းနှင့် စပ်လျဉ်း၍ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံထားပါသည်။

၂။ အဆိုပါလုပ်ငန်း အဆိုပြုချက်ကို (၉-၁၀-၂၀၀၀) နေ့တွင်ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၄/၂၀၀၀) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

- အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်မြေနေရာအနေဖြင့် ပတ်ဝန်းကျင်အားအနှောက်အယှက်ဖြစ်နိုင်-မဖြစ်နိုင်၊ ပတ်ဝန်းကျင်ရှိစက်ရုံများ၊ လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်သင့်-မသင့်ကိုမြို့တော်နှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှသွားရောက်စစ်ဆေးပြီး ကော်မရှင်သို့ပြန်လည်တင်ပြရန်။

၃။ အထက်ပါဆုံးဖြတ်ချက်အရ မြို့တော်နှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ စစ်ဆေးပြီး အောက်ပါအတိုင်း ပြန်လည်တင်ပြလာပါသည်။

- မြေပေါ်တွင် ၁၀၇'×၆၀' ရှိအဆောက်အဦတစ်လုံး၊ ၁၀'×၉၀' ရှိ ၂ထပ်အဆောက်အဦတစ်လုံး၊ ၁၀'×၃၀' ရှိရုံးခန်း၊ ၄၂'×၁၃' ရှိ ... အဆောက်အဦတစ်လုံး ဆောက်လုပ်ထားပြီးဖြစ်ပြီး လုပ်ငန်းဆောင်ရွက်ခြင်းမရှိသေးပါကြောင်း ။

- အဆိုပါမြေကွက်သည် အအေးခန်းစက်ရုံအတွက်လျှောက်ထားသည့်နေရာတွင်တည်ရှိပါကြောင်း ၊ စက်ရုံနှင့်ကပ်လျက်လမ်းသည် တွင်းသင်းတိုက်ဝန်းဦး လမ်းသို့လမ်းဖြစ်၍ အဆိုပါလမ်း နံဘေးတွင်တဂူချိုချောင်း ပါချောင်းသက်ဆက်ရှိပါကြောင်း ။

- သို့ဖြစ်ပါ၍ အဆိုပြုမြေပေါ်တွင် စီစဉ်ပြုပါလုပ်ငန်းကို ဆောင်ရွက်ရန်သင့်တော်ပါကြောင်း ။

၄။ လမ်းညွှန်မှုပြုနိုင်ပါရန်တင်ပြအပ်ပါသည်။



*၄

ပြည်ထောင်စု မြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃/၆၉၁၊ ကုန်သည်လမ်း ရန်ကုန်မြို့။

Fax: 095-01- 282101 တယ်လီဖုန်း - ၂၇၂၈၁၂၊ ၂၇၂၁၅၈၊ ၂၇၂၀၉၁။

စာအမှတ်၊ ရက-၁/၈-၆၂၉/၂၀၀၂ (၁၃၆၃-၈)

ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ ဇွန်လ ၂၅ ရက်။

အကြောင်းအရာ။ မြန်မာ ငါးဘုရင် လီမိတက် (Myanmar King Fish Ltd.) မှ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ခွင့်ပြုရန် တင်ပြခြင်း။

ရည် ညွှန်း ချက်။ မြန်မာ ငါးဘုရင် လီမိတက် (Myanmar King Fish Ltd.) ၏ (၁၁-၆-၂၀၀၂) ရက်စွဲပါစာ။

၁။ ၂၀၀၂ ခုနှစ်၊ မေလ (၂၀)ရက် နေ့တွင် ကျင်းပသော ကော်မရှင်၏ (၁၆/၂၀၀၂) အစည်းအဝေး ဆုံးဖြတ်ချက်အရ မြန်မာ ငါးဘုရင် လီမိတက် (Myanmar King Fish Ltd.) ၏ မတည်ငွေရင်း ပမာဏအား ကျပ် (၇၀.၄၀)သန်း (ကျပ် ခုနစ်ဆယ်သန်း လေးသိန်း တိတိ) မှ ကျပ် (၁၄၁.၈၈)သန်း (ကျပ် တစ်ရာ လေးဆယ့် တစ်သန်း ရှစ်သိန်း ရှစ်သောင်း) သို့ တိုးမြှင့် ခွင့်ပြုလိုက်သည်။

၂။ အထက်ပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးခဲ့သော (၃၀-၅-၂၀၀၁) ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် မနသ-၄၉၄/၂၀၀၁ တွင် မတည်ငွေရင်း ပမာဏကို ကျပ်(၁၄၁.၈၈)သန်း (ကျပ် တစ်ရာ လေးဆယ့် တစ်သန်း ရှစ်သိန်း ရှစ်သောင်း) ဟု ပြင်ဆင်လိုက်သည်။

၃။ မြန်မာ ငါးဘုရင် လီမိတက် (Myanmar King Fish Ltd.) သည် လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပပို့ကုန်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက် များအဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ မြန်မာ ငါးဘုရင် လီမိတက် (Myanmar King Fish Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပြန်ထားသည့် (၃၀-၅-၂၀၀၁) ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ် ၄၅/၂၀၀၁ (မနသ)ပါ စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

ဥက္ကဋ္ဌ (ကိုယ်စား)

(ဗိုလ်မှူးကြီး လင်းသော်၊ အတွင်းရေးမှူး)

ဥက္ကဋ္ဌ

မြန်မာ ငါးဘုရင် လီမိတက်

စာအမှတ်၊ စီမံ/နသစ/ပစလ-၂(၁)/၂၀၀၀/( ၉၂၁ )၊
ရက်စွဲ၊ ၂၀၀၀ပြည့်နှစ်၊ နိုဝင်ဘာလ ၂၂ ရက်၊

သို့
ဒုတိယညွှန်ကြားရေးမှူးချုပ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း ၊

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁-၁၀-၂၀၀၀ ပြည့်နှစ်ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၆၂၉/၂၀၀၀၀(၂၄၂၀)

၁။ ရန်ကုန်တိုင်း ရွှေပြည်သာမြို့ စက်မှုဇုန်အပိုင်း (၃) မြေတိုင်းရပ်ကွက်အမှတ် ၆၄၊ မြေကွက်အမှတ်-၄၊ ဧရိယာ(၀.၆၉)ဧကရှိ မြေပေါ်တွင် မြန်မာငါးဘုရင်လီမိတက်မှ ငါးပုဇွန်ပြုပြင်ထုတ်လုပ်ခြင်းနှင့် အအေးခန်းစက်ရုံတည်ဆောက်ခြင်းလုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက်တောင်းခံလာပါသည်။

၂။ အဆိုပါမြေပေါ်သို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အစည်းအဝေးဆုံးဖြတ်ချက်အရ သွားရောက်စစ်ဆေးရာ မြေပေါ်တွင် ၁၇၀' × ၆၀' ရှိအဆောက်အဦတစ်လုံး၊ ၁၀' × ၉၀' ရှိ ၂ထပ်အဆောက်အဦတစ်လုံး၊ ၁၀' × ၃၆' ရှိ ရုံးခန်းနှင့် ၂၇' × ၅၄' ရှိတစ်ထပ်အဆောက်အဦတစ်လုံး ဆောက်လုပ်ထားပြီး လုပ်ငန်းဆောင်ရွက်ခြင်းမရှိသေးပါကြောင်း တွေ့ရှိရပါသည်။

၃။ အဆိုပါမြေကွက်သည် အအေးခန်းစက်ရုံအတွက် လျာထားနေရာတွင်တည်ရှိပါသည်။ စက်ရုံနှင့်ကပ်လျက် လမ်းသည် ထွင်းသင်းတိုက်ဝန်ဦးထွန်းညိုလမ်း ဖြစ်ပါသည်။ အဆိုပါလမ်းနံဘေးတွင် တဂူခြီချောင်း၏ ချောင်းလက်တက်ရှိပါသည်။ သို့ဖြစ်ပါ၍ အဆိုပြုမြေပေါ်တွင် ဖေါ်ပြပါလုပ်ငန်းကို ဆောင်ရွက်ရန်သင့်တော်ပါသည်ဟု ယူဆပါကြောင်း ပြန်လည်တင်ပြအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(သန်းကျော်-ညွှန်ကြားရေးမှူး၊ စီမံခန့်ခွဲရေး + အိမ်ရာ)

မိတ္တူကို-(၁)ဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊
(၂)စီမံကိန်းမန်နေဂျာ၊ ရွှေပြည်သာစက်မှုဇုန်၊
(၃)ရုံးလက်ခံ၊
(၄)မျှောစာတွဲ၊

KF

မြန်မာ ငါးဘုရင် လီမိတက်

MYANMAR KING FISH LIMITED

Head Office:
No. 77, Nguwa St, Ahlone Twsp.
Yangon, Myanmar.
Tel : 95-1-223919
Fax : 95-1-222921
E-Mail : ukk@mptmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ ။ ။ ၂၀၀၀ ပြည့်နှစ်၊ စက်တင်ဘာလ၊ (၂၀)ရက်။

အကြောင်းအရာ။ ။ မြန်မာငါးဘုရင် လီမိတက်၏ ငါးပုစွန် ပြုပြင် ထုတ်လုပ်ခြင်းနှင့် အအေးခန်း စက်ရုံ တည်ဆောက်ခြင်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း။

ရည်ညွှန်းချက်။ ။ (၁) မြန်မာငါးဘုရင် လီမိတက်၏ (၂၆.၇.၂၀၀၀) ရက်စွဲပါ စာ။

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃.၈.၂၀၀၀) ရက်စွဲပါ စာအမှတ်- ရက-၁/မ-၆၂၉/၂၀၀၀(၁၉၄၉)။

(၃) မြန်မာငါးဘုရင် လီမိတက်၏ (၁၆.၈.၂၀၀၀)ရက်စွဲပါ စာ။

၁။ အထက် အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ကျွန်တော်တို့ မြန်မာငါးဘုရင် လီမိတက် (Myanmar King Fish Ltd) အနေဖြင့် ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ မြေတိုင်း ရပ်ကွက် အမှတ် (၆၄)၊ စက်မှုဒေသ အကွက် အမှတ် (၄) ရှိ၊ (၁.၆၉) ဧက ကျယ်ဝန်းသော မြေနေရာတွင် ငါးပုစွန် ပြုပြင် ထုတ်လုပ်မှု နှင့် အအေးခန်း စက်ရုံ တည်ဆောက်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာကို ရည်ညွှန်းချက် (၁) ပါစာဖြင့် တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ အဆိုပါ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ လုပ်ငန်း တည်နေရာသည် ငါးပုစွန် လုပ်ငန်းများ ဆောင်ရွက်ရန် သတ်မှတ်နေရာတွင်သာ ဖြစ်ရန် လိုအပ်ပါ၍ တင်ပြလာသော အဆိုပြုချက်ကို လက်မခံကြောင်းကို ရည်ညွှန်းချက် (၂)ပါ စာဖြင့် အကြောင်းကြား စာကို လက်ခံရရှိခဲ့ပါသည်။

၃။ သို့ပါ၍ မြန်မာငါးဘုရင် လီမိတက်၏ အဆိုပြု လုပ်ငန်းအား ဆက်လက် ဆောင်ရွက်နိုင်ရန် အတွက် တွေ့ဆုံ ဆွေးနွေးခွင့် ပြုပါရန် တောင်းခံစာကို ရည်ညွှန်းချက် (၃) ပါစာဖြင့် တွေ့ဆုံခွင့် တောင်းခံခဲ့ရာ (၂၁.၈.၂၀၀၀)ရက်နေ့တွင် တွေ့ဆုံဆွေးနွေးခွင့် ရရှိခဲ့ပါသည်။

မြန်မာ ငါးဘုရင် လီမိတက်
MYANMAR KING FISH LIMITED

Head Office:
No. 77, Nguwa St, Ahlone Twsp,
Yangon, Myanmar.
Tel : 95-1-228819
Fax : 95-1-222921
E-Mail : ukk@mptmail.net.mm

၄။ ယင်းသို့ တွေ့ဆုံ ဆွေးနွေးရာတွင် သိရှိခဲ့သော လိုအပ်ချက်များ ဖြစ်သည့် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက် စာ၊ ရေဆိုးများအား အဆင့်ဆင့် သန့်စင်ပုံ လုပ်ငန်းစဉ် စာနှင့် လုပ်ငန်း ဆောင်ရွက်မည့် နေရာအား ပြည့်စုံစွာ ဖော်ပြသည့် မြေပုံများနှင့်အတူ မြန်မာ ငါးဘုရင် လီမိတက်၏ အဆိုပြု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆက်လက် ဆောင်ရွက်နိုင်ရန် အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ လိုအပ်သလို စိစစ်ပေးနိုင်ရန် ပေးပို့တင်ပြ အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

Khin Kyaw
Managing Director
Myanmar King Fish Limited.

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁/၂၀၀(ည)/၅၁၀၀/ ၁၁၂
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ စက်တင်ဘာလ ၁၈ ရက်

အကြောင်းအရာ။ **<u>သဘောထား ပြန်ကြားခြင်း</u>**

ရည်ညွှန်းချက်။ မြန်မာ–ငါးဘုရင်လီမိတက်၏ (၂၈–၈–၂၀၀၀) ရက်စွဲပါ အသိပြုလွှာ။

၁။ မြန်မာ–ငါးဘုရင်လီမိတက်သည်၊ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊ စက်မှုဒေသအကွက်အမှတ်(၄)နှင့်(၁,၆၉) တွင်တည်ရှိ ဝန်းသော မြေနေရာတွင် နိုင်ငံတစ်ကာအဆင့်မီအအေးခန်းစက်ရုံတည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး/ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်လိုပါသဖြင့် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် တောင်းခံထားပါသည်။

၂။ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနသည် အအေးခန်းစက်ရုံတည်ဆောက်၍ ငါး/ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်လုပ်ကိုင်ခြင်းကို အားပေးကူညီလျက်ရှိပါသဖြင့် မြန်မာ–ငါးဘုရင်လီမိတက်မှ လုပ်ငန်းဆောင်ရွက်ခွင့် အသိပြုတင်ပြချက်အပေါ် ကန့်ကွက်ရန်မရှိပါကြောင်းနှင့် ဆောင်ရွက်သင့်သော လုပ်ငန်းဖြစ်ကြောင်း ထောက်ခံ ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး (ကိုယ်စား)
(ညီညီလွင်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

<u>မန်နေဂျင်းဒါရိုက်တာ၊</u>
<u>မြန်မာ–ငါးဘုရင်လီမိတက်</u>

မြင့်နိုင်ငံဟည်
ဦးစင်းရွှင်းရမည်
စာနံထမ်းဟု

# ပုံတွင်ဖော်ပြထားသည့် ပုံစံအရ ရေဆိုးများအား အဆင့်ဆင့်သန့်စင်ပုံ

ရှေ့ဦးစွာ စက်ရုံမှ ထွက်လာသော ရေဆိုးများကို ကန်နံပါတ်(၁) Last Man Hole ကန်သို့ စီးဆင်း စေပါသည်။ ၄င်းမှတစ်ဆင့် ခေတ္တရေဆိုး ထိန်းသိမ်းကန် (Equalising Tank) အမှတ် (၂) ၌ ရေဆိုး များကို စုဆောင်းထားပါသည်။

ET ၌ ရေသတ်မှတ်သည့် အမြင့်သို့ ရောက်လာသောအခါ ၄င်းကန်အတွင်း၌ ထည့်ထားသည့် ရေစုတ်စက်မှ ပမာဏရေဆိုး သန့်စင်ကန် (Anaerobic Treatment Tank) A.T.T. ကန် (၃) သို့ ပို့ပေး ပါသည်။ A.T.T ကန်ထဲ၌ ရေဆိုးတွင်ပါဝင်သော အနည်များသည် ၄င်းကန်ထဲ၌ အနည်ထိုင်သွားပြီး ၄င်းကန်ထဲရှိ Bateria များက အနည်များကို စားပြစ်ပါသည်။

A.T.T. ကန်(၃) မှ နေ၍ Aeration Tank ကန်(၄) (AT) တွင်းသို့ Gravaty Floor ဖြင့် ရေများ ကို ဝင်ရောက်စေပြီး AT ကန် (၄) ထဲ၌ Aerator ဖြင့် ရေများကို မွှေခြင်းအားဖြင့် ၄င်းရေကို အောက်စီဂျင်နှင့် တွေ့ထိစေ၍ ရေကို သန့်စင်စေပါသည်။ AT Tank (4) မှ နေ၍ ရေစုတ်စက်ဖြင့် Sludge Drying Bed S.D.B ကန်(၅) သို့ မောင်းသွင်းစေသောအခါ ရေထဲတွင်ပါဝင်သော အနည်းများ ကန်(၅)ရှိ သဲလွှာများတွင် တင်ကျန်စေခဲ့ပြီး သန့်စင်ပြီးသော ရေများကို Public Drain ထဲသို့ ထည့်သွင်း ထုတ်လွှတ်စေပါသည်။

ကန်(၅) သဲလွှာပေါ်တွင် ကျန်ရစ်ခဲ့သော သန့်စင်ပြီးအနည်များကို (၆)လတကြိမ် ခြစ်ပြီးပြီး Land filling သို့မဟုတ် မြေဩဇာအဖြစ် အသုံးပြုနိုင်ပါသည်။ ရေရှားပါးသည့် အရပ်ဒေသများအတွက် သန့်စင် ပြီး ရေဆိုးများကို ပြုပြင်ထုတ်လုပ်သည့် နေရာများအား ဆေးကြောရန် ပြန်လည်အသုံးပြုရပါသည်။


**ဦး ခင် လတ် B.E (Civil)**
အကြီးတန်း လိုင်စင်ရ အင်ဂျင်နီယာ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
လိုင်စင်အမှတ် ( ၂၁၁ )
အမှတ် ၂၄၀ (အပေါ်ဆုံးထပ်) ၂၉ လမ်း
ပန်းပဲတန်းမြို့နယ်။

ကော်မရှင်၏ ၁၁ / ၂၀၀၁
အစည်းအဝေး

အကြောင်းအရာ။ ။ **မြန်မာ့ငါး သုရင်လီမိတက်၏ ငါးပုဇွန်ပြုပြင်ထုတ်လုပ်ခြင်းနှင့်အအေးခန်းစက်ရုံတည်ဆောက်ခြင်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။**

၁။ မြန်မာ့ငါး သုရင်လီမိတက်မှ ရွှေပြည်သာမြို့နယ်၊ မြေတိုင်းရပ်ကွက် (၆၄)၊ စက်မှုဇုန်၊ မြေကွက်အမှတ် (၄) တွင် ငါးပုဇွန်ပြုပြင်ထုတ်လုပ်ခြင်းနှင့် အအေးခန်းစက်ရုံတည်ဆောက်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စအား (၁-၁၂-၂၀၀၀) နေ့တွင်ကျင်းပသော ကော်မရှင်၏ (၃၉/၂၀၀၀) ကြိမ်မြောက်အစည်းအဝေး သို့တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

" လုပ်ငန်း ဆောင်ရွက်မည့်မြေနေရာမှ ပတ်ဝန်းကျင်ညစ်ညမ်းနိုင်မှုရှိ-မရှိ Water Treatment Plant - တပ်ဆင်ထားခြင်း ရှိ-မရှိကိုမြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှသွားရောက်စစ်ဆေးပြီး ကော်မရှင်သို့ပြန်လည်တင်ပြရန် "

၂။ အထက်ပါဆုံးဖြတ်ချက်အရ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ အောက်ပါအတိုင်း ပြန်ကြားလာပါသည်။

" အဆိုပါမြေပေါ်တွင် (၁၇၀'×၆၀') အဆောက်အဦးတစ်လုံး (၁၀'×၉၀') အဆောက်အဦးတစ်လုံး၊ (၁၀'×၃၆') ရုံးခန်းနှင့် (၂၇'×၃၄') တစ်ထပ်အဆောက်အဦးတစ်လုံးတည်ဆောက်ဆဲဖြစ်ပြီး လုပ်ငန်း ဆောင်ရွက်ခြင်းမရှိသေးကြောင်း၊

- လုပ်ငန်း ဆောင်ရွက်မည့်မြေနေရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်လုပ်ငန်းစီစဉ်ထားမှုနှင့် ( Waste Water Treatment Plant ) တပ်ဆင်ခြင်းအစီအစဉ်ကို (၂၃-၂-၂၀၀၁) ရက်စွဲပါစာဖြင့်တင်ပြလာပါကြောင်း၊

- အဆိုပြုမြေ နေရာသည် အအေးခန်း စက်ရုံအတွက် သွားလာ နေရာတွင်တည်ရှိပါကြောင်း၊ အဆိုပြုမြေကွက်နှင့်ကပ်လျက် တွင်းဘင်းတိုက်ဝန် ဦးထွန်းညိုလမ်း၏ နံဘေးတွင် တဂူခြံ ချောင်း လက်တက်ရှိပါကြောင်း၊ မြန်မာ့ဝါး ဘုရင်သီမိတက် ၏တင်ပြချက်အရ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် စက်ရုံ မှ Waste Water Treatment System အသုံးပြု ၍သန့်စင်ထားပြီး သောအရည်ကြည်ကိုယင်း တဂူခြံ ချောင်း မှတဆင့်လှိုင်မြစ်အတွင်းသို့စွန့်ပစ်ရန် စီစဉ်ဆောင်ရွက် နေ သည်ကို တွေ့ရှိရကြောင်း၊ သို့ပါ၍အဆိုပါမြေပေါ်တွင်မြန်မာ ဝါး ဘုရင်သီမိတက်မှ ငါး ပုဇွန်ပြုပြင်ထုတ်ပိုးခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြလာခြင်း အပေါ် ခွင့်ပြု သင့်ကြောင်း ပြန်ကြားလာပါသည်။

၃။ ၄င်းအပြင်မြန်မာ့ဝါး ဘုရင်သီမိတက်မှလည်း ကော်မရှင်သို့ ရေညစ်သန့်စင်မှုစနစ်အစဉ်နှင့်ပတ်သက်၍ ရှင်းလင်းတင်ပြလာပါသည်။ အဆိုပြုချက် တွင်လည်း Waste Water Treatment Plant — နှင့်ပတ်သက်သော အစီ အစဉ်ကိုပြင်ဆင်ဖြည့်စွက်ပြီး ကြောင်းနှင့် ပုံစံ စီမံကိန်း အဆိုပြုချက်ပါ အချက်များနှင့်အတူပြန်လည်တင်ပြ လမ်းညွှန်မှုခံယူအပ်ပါသည်။



* ကျော်၃၄၂၀၀၁။

# လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏ အဓိကအချက်များ

(မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | မြန်မာငါး ဘုရင်လီမိတက် (Myanmar King Fish Ltd.)<br><br>(၁၄-၂-၂၀၀၀ နေ့တွင်မှတ်ပုံတင်ပြီး) |
| ၂ | လုပ်ငန်း အဆိုပြုသူအမည် | ဦး ခင် ကျော် |
| ၃ | အဆိုပြုလုပ်ငန်း အမျိုး အစား | ငါး ပုစွန်ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၄ | တည်နေရာ | မြေကွက်အမှတ် (၄)၊ မြေတိုင်း ရပ်ကွက်အမှတ် (၆၄), စက်မှုဒေသ၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်း ။ |
| ၅ | ရင်း နှီး မြှုပ်နှံမှု | ကျပ်၇၀.၄၀သန်း (US$ ၀.၁၂၅သန်းအပါအဝင်) |
| | - ငွေသား | ကျပ် ၂၀.၀၀သန်း |
| | - မြေ | ကျပ် ၁၃.၂၀သန်း |
| | - အဆောက်အဦ | ကျပ် ၁၅.၅၀သန်း |
| | - စက်ပစ္စည်း | ကျပ် ၂၁.၇၀သန်း (US$ ၀.၁၂၅သန်းအပါအဝင်) |
| ၆ | မြေအကြောင်း အရာ | |
| | - မြေအကျယ်အဝန်း | ၁.၆၉ ဧက (၆၈၃၉.၁၉ စတုရန်း မီတာ) |
| | - မြေပိုင်ဆိုင်မှု | မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုး ရေး ဦး စီး ဌာနထံမှ မြန်မာငါး ဘုရင်လီမိတက်အမည်ဖြင့်အသုံး ပြုခွင့်ရရှိ ထား သော မြေ။<br>(မြေကို မတည် ငွေရင်း အဖြစ်ထည့်ဝင်ထား ပါသည်) |
| ၇ | ထုတ်လုပ်မှု (ပုံမှန်နှစ်) | တန် |
| | - Fresh Water Fish | ၃၃၆ |
| | - Sea Water Fish | ၂၄၀ |
| | - Fresh Water Prawn | ၃၆ |
| | - White Prawn | ၄၆ |
| | - Tiger Prawn | ၃၆ |
| | - Pink Prawn | ၄၂ |

| | | |
|---|---|---|
| ၈ | ရေခင်း ချမည့်နည်း စနစ်<br>-ပြည်ပ ရေခင်း | <br>၁၀၀ % |
| ၉ | ရေခင်း ဈေး နှုန်း<br>(ပုံမှန်နှုန်း)<br>- Fresh Water Fish<br>- Sea Water Fish<br>- Fresh Water Prawn<br>- White Prawn<br>- Tiger Prawn<br>- Pink Prawn | အမေရိကန် ဒေါ်လာ (တစ်တန်လျှင်)<br><br>၂၀၇၀<br>၁၀၄၆<br>၁၀၀၀၀<br>၁၇၀၀၀<br>၁၆၀၀၀<br>၁၆၀၀၀ |
| ၁၀ | ဝင်ငွေ (ပုံမှန်နှုန်း) | US$ ၃.၆၁ သန်း |
| ၁၁ | အသားတင်အမြတ် | US$ ၂.၆၄ သန်း |
| ၁၂ | နိုင်ငံတော်မှ ပုံမှန်နှုန်းဖြင့် ရရှိမည့်အကျိုးအမြတ်<br>- ဝင်ငွေခွန်<br>- ကုန်သွယ်လုပ်ငန်းခွန်<br>(ပြည်ပ ရေခင်း ဝင်ငွေအပေါ် ၁၀ %) | <br><br>US$ ၀.၄၇ သန်း<br>US$ ၀.၃၆ သန်း |
| ၁၃ | ဝန်ထမ်းအင်အား<br>-ပြည်တွင်း<br>-ပြည်ပ | ၂၀၆ ဦး<br>၂၀၃ ဦး<br>၃ ဦး |
| ၁၄ | တည်ဆောက်မှုကာလ | (၆) လ |
| ၁၅ | အခြား | - စက်ပစ္စည်း များ အားလုံး အိန္ဒိယနိုင်ငံ ANDAMAN SEA FOODS PVT LTD မှ ရှေ့ ထိုင်း ငွေပေး ချေခြင်း စနစ်ဖြင့် ဝယ်ယူမည်ဖြစ်ပြီး အတိုး နှုန်း (၅) ရာခိုင်နှုန်း ဖြင့် (၄) နှစ်အတွင်း |

ပြန်လည် ပေးဆပ်ရမည်ဖြစ်ပါသည်။

- စက်ပစ္စည်း စာရင်း အား တင်ပြထားပါသည်။

- ယင်းလုပ်ငန်း၏ငွေကြေး အထောက်အထား အဖြစ် Myanmar King Fish Ltd ... အမည်ဖြင့် ရုံးမဘဏ်၌ (၁၄-၆-၂၀၀၀) နေ့ ငွေလက်ကျန်မှာ ကျပ် (၁၀.၀၀) သိန်း ရှိကြောင်း တင်ပြထားပါသည်။

- ယင်းလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာ ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ ပြည်ပဈေးကွက်ရှိပြီး ဖြစ်ကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်း ချက်များ အား လိုက်နာမည်ဖြစ်ကြောင်း၊ ပြည်ပမှ ချေးငွေယူခြင်း သည် နိုင်ငံတော်နှင့်သက်ဆိုင်ခြင်း မရှိဘဲ ချေးယူသူ၏ တာဝန်သာဖြစ်ကြောင်း နှင့်ယင်း ချေးငွေကိုလုပ်ငန်းမှ ရရှိသည့်တရားဝင်နိုင်ငံခြားငွေနှင့် ပေးဆပ်မည်ဖြစ်ကြောင်း ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အောင် ရှောင်ထားမည်ဖြစ်ကြောင်း နှင့် Waste Water Treatment Plant တပ်ဆင် အသုံးပြုသွားမည်ဖြစ်ကြောင်း နှင့်ယင်းလုပ်ငန်း သည်လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

- မွေးမြူရေး နှင့် ရေလုပ်ငန်း ဝန်ကြီးဌာနမှ ငါး ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ခြင်းကို အား ပေးကူညီလျက်ရှိသဖြင့်ကန့်ကွက်ရန် မရှိကြောင်း နှင့် ဆောင်ရွက်သင့်သောလုပ်ငန်း ဖြစ်ကြောင်း

ထောက်ခံစာကိုပူးတွဲတင်ပြထားပါသည်။

- ပူးတွဲပါဥပဒေပုဒ်မ ၁၂ နှင့် ၁၃ အရ ရာနှုန်းဆိုင်ရာတင်း လွတ်ခွင့်နှင့်ယက်သွားခွင့်များကိုခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

တယ်လီဖုန်း - ၂၅၂၇၅၆။

စာအမှတ် ၊ ရက - ၁ / မ - ၆၂၉ / ၂၀၀၀ ( ၂၇၂

ရက်စွဲ ၊ ၂၀၀၀ ပြည့်နှစ်၊ ဒီဇင်ဘာလ ၁၃

အကြောင်းအရာ။ ။ <u>မြန်မာဝါး ဘုရင်လီမိတက်၏ ဝါး ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းနှင့်အအေးခန်း စက်ရုံတည်ဆောက်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။</u>

ရည်ညွှန်းချက်။ ။ (၁) မြန်မာဝါး ဘုရင်လီမိတက်၏ ( ၂၀ - ၉ - ၂၀၀၀ ) ရက်စွဲပါစာ။

(၂) မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန၏ ( ၂၂ - ၁၁ - ၂၀၀၀ ) ရက်စွဲပါစာအမှတ်၊ စီမံ/ နဆစ / ပစလ - ၂ (၁) / ၂၀၀၀ / ( ၉၂၁ )။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍မြန်မာဝါး ဘုရင်လီမိတက်မှရည်ညွှန်း ( ၁ ) ပါစာဖြင့်အဆိုပြုတင်ပြလာခြင်း ကိစ္စအပေါ် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှရည်ညွှန်း ( ၂ ) ပါစာဖြင့်သဘောထား မှတ်ချက်ပြန်ကြားလာခြင်းကို ( ၁ - ၁၂ - ၂၀၀၀ ) နေ့တွင်ကျင်းပပြုလုပ်သောမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၃၉ / ၂၀၀၀ ) ကြိမ်မြောက်အစည်းအဝေး သို့တင်ပြခဲ့ရာယင်းအစည်းအဝေးမှ အောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည်။

> ``လုပ်ငန်းဆောင်ရွက်မည့်မြေနေရာမှာပတ်ဝန်းကျင်ညစ်ညမ်းနိုင်မှုရှိ - မရှိ၊ Water Treatment Plant - တပ်ဆင်ထားခြင်းရှိ - မရှိကိုမြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှသွားရောက်စစ်ဆေးပြီး ကော်မရှင်သို့ပြန်လည်တင်ပြရန်၊ ``

၂။ သို့ဖြစ်ပါ၍အထက်ပါဆုံးဖြတ်ချက်ကိုသိရှိနိုင်ပါရန်နှင့်လိုအပ်သကဲ့သို့ဆက်လက်ဆောင်ရွက်နိုင်ပါရန်အကြောင်းကြားအပ်ပါသည်။

အမိန့်အရ -

( သိန်းထွန်း )

ဒုတိယညွှန်ကြားရေးမှူးချုပ်

<u>ညွှန်ကြားရေးမှူးချုပ်</u>

<u>မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန။</u>

ဝင်း / *

ဇယား (၇)

<u>မြန်မာ့ဝါးဘုရင်လီမိတက်</u>

<u>ရေညစ်သန့်စင်မှုစနစ်အစီအစဉ်</u>

<u>ရေထုညစ်ညမ်းမှုကို မဖြစ်နိုင်သော အရည်ကြည်ကို ရေထုတ်မြောင်းမှ တကူးခြံချောင်းလက်တက်၊</u>

<u>တကူးခြံချောင်းတို့မှ အဆင့်ဆင့်ဖြတ်၍၊ လှိုင်မြစ်အတွင်းသို့ စွန့်ထုတ်ခြင်းကိုပြသောမြေပုံ</u>



မြန်မာ ငါးဘုရင် လီမိတက်
# MYANMAR KING FISH LIMITED
Head Office:
No. 77, Nguwa St, Ahlone Twsp,
Yangon, Myanmar.
Tel : 95-1-229819
Fax : 95-1-222921
E-Mail : ukk@mptmail.net.mm

သို့

အထူးအရာရှိ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ၂၀၀၁ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၁၆ ) ရက်။

အကြောင်းအရာ ။ ။ မြန်မာငါးဘုရင်လီမိတက်၏ ငါး၊ ပုဇွန် ပြုပြင်ထုတ်လုပ်ခြင်းနှင့် အအေးခန်းစက်ရုံ တည်ဆောက်ခြင်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းအတွက် ဖေါ်ပြထားသော ဇယား (၂) ခုအား ပြင်ဆင်ခြင်းကိစ္စ။

ရည် ညွှန်း ချက် ။ ။ မြန်မာငါးဘုရင်လီမိတက်၏ (၂၀-၉-၂၀၀၀) ရက်စွဲပါစာ။

အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍၊ " မြန်မာငါးဘုရင်လီမိတက် " **(Myanmar King Fish Ltd)** သည် ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ စက်မှုဒေသအကွက်အမှတ်(၄)ရှိ (၁. ၆၉)ဧက ကျယ်ဝန်းသော မြေနေရာတွင် ငါး၊ ပုဇွန် ပြုပြင်ထုတ်လုပ်ခြင်းနှင့် အအေးခန်းစက်ရုံ တည်ဆောက်ခြင်း လုပ်ငန်းကို ရည်ညွှန်းချက်ပါစာဖြင့် တင်ပြခဲ့ပါသည်။

ယခုအချိန်တွင် လုပ်ငန်းဆောင်ရွက်မည့် မြေနေရာမှာ ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရေးအတွက် လုပ်ငန်းစဉ်ထားရှိမှုနှင့် **(Waste Water Treatment Plant)** တပ်ဆင်ခြင်း စီစဉ်ထားရှိမှုအတွက် ကုန်ကျစရိတ်များ အသေးစိတ် ပြင်ဆင်တွက်ချက်မှုများ ဆောင်ရွက်လျှက်ရှိပါသည်။

**(Waste Water Treatment Plant)** ၏ ကုန်ကျစရိတ်များ အသေးစိတ်ပြင်ဆင်တွက်ချက်ရာတွင် အဆိုပြုချက်ပါ နောက်ဆက်တွဲဇယား (၂) **(Exhibit No. II)** အား ပူးတွဲပါဇယား (၁)ဖြင့် ပြင်ဆင်ခြင်းနှင့် အဆိုပြုချက်ပါ နောက်ဆက်တွဲ ဇယား (၃-က)၊ **(Exhibit NO. III A)** အား ပူးတွဲပါဇယား (၂) ဖြင့် ပြင်ဆင်ခြင်းတို့အတွက် တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

Khin Kyaw
Managing Director
Myanmar King Fish Limited.

မိတ္တူကို
- ညွှန်ကြားရေးမှူးချုပ်
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

ဇယား (၁)

## MYANMAR KING FISH LIMITED.
## FACTORY BUILDING

Exhibit No. II

| Sr. No. | Description | Dimension | No. of Building | Original Estimate Cost (Kyats) | Revised Estimate Cost (Kyats) |
|---|---|---|---|---|---|
| 1. | Factory Building | 176'×69' | 1 | '7000000.00 | 8600000.00 |
| 2. | Quarter | 54'×27' | 1 | 5000000.00 | 2500000.00 |
| 3. | Office | 36'×18' | 1 | 2000000.00 | 1000000.00 |
| 4. | Female Changing Room | 18'×45' | 1 | 1000000.00 | 1000000.00 |
| 5. | Male Changing Room | 18'×27' | 1 | 500000.00 | 500000.00 |
| 6. | Waste Water Treatment Plant | - | - | - | 1900000.00 |
| | **TOTAL** | | | **15500000.00** | **15500000.00** |

# MYANMAR KING FISH LIMITED.
## LIST OF MACHINERIES & EQUIPMENTS ( LOCAL PURCHASE )

Exhibit No.IIIA

| Sr No. | Particulars | Qty Units | Original | | Revised | |
|---|---|---|---|---|---|---|
| | | | Unit Price In Kyats | Value In Kyats | Unit Price In Kyats | Value In Kyats |
| 1. | Compressor & Motor (Complete Set) | 2 Set | 3,850,000 | 7,700,000 | 3700,000 | 7400,000 |
| 2. | Compressor & Motor (Complete Set) | 1 Set | 2,000,000 | 2,000,000 | 2,000,000 | 2,000,000 |
| 3. | Liquid Receiver (Complete Set) | 1 Set | 600,000 | 600,000 | 600,000 | 600,000 |
| 4. | Condenser (Complete Set) | 1 Set | 978,000 | 978,000 | 978,000 | 978,000 |
| 5. | Flake Ice Maker (Complete Set) | 1 Set | 1,500,000 | 1,500,000 | 1,500,000 | 1,500,000 |
| 6. | Electrical Switch Board & Necessary Accessories | 1 Lot | 700,000 | 700,000 | 700,000 | 700,000 |
| 7. | Pipes & Installation Materials | 1 Lot | 1,000,000 | 1,000,000 | 800,000 | 800,000 |
| 8. | Stand By Generator (Complete Set) | 1 Set | 4,200,000 | 4,200,000 | 4,200,000 | 4,200,000 |
| 9. | Transformer (Complete Set) | 1 Set | 2,000,000 | 2,000,000 | 2,000,000 | 2,000,000 |
| 10. | Waste Water Treatment | - | - | 272,000 | - | 772,000 |
| | TOTAL | | | 20,950,000 | | 20,950,000 |

မြန်မာ ငါးဘုရင် လီမိတက်

MYANMAR KING FISH LIMITED

Head Office:
No. 77, Nguwa St, Ahlone Twsp.
Yangon, Myanmar.
Tel : 95-1-228919
Fax : 95-1-222921
E-Mail : ukk@mptmail.net.mm

သို့

အထူးအရာရှိ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

ရက်စွဲ ။ ။ ၂၀၀၁ ခုနှစ်၊ ဇန်နဝါရီလ၊ (၂၆)ရက်။

အကြောင်းအရာ။ ။ **မြန်မာငါးဘုရင် လီမိတက်၏ ငါးပုစွန် ပြုပြင် ထုတ်လုပ်ခြင်းနှင့် အအေးခန်း စက်ရုံ တည်ဆောက်ခြင်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ အတွက် တွေ့ဆုံဆွေးနွေးခွင့် တောင်းခံခြင်း။**

ရည်ညွှန်းချက်။ ။ (၁) မြန်မာငါးဘုရင် လီမိတက်၏ (၂၆.၇.၂၀၀၀)ရက်စွဲပါ စာ။

(၂) မြန်မာငါးဘုရင် လီမိတက်၏ (၂၀.၉.၂၀၀၀) ရက်စွဲပါ

အထက် အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာငါးဘုရင် လီမိတက် ( Myanmar King Fish Ltd) သည် ရန်ကုန်တိုင်း၊ ရွှေပြည်သာ မြို့နယ်၊ မြေတိုင်း ရပ်ကွက် အမှတ် (၆၄)၊ စက်မှုဒေသ အကွက် အမှတ် (၄) ရှိ (၁.၆၉) ဧက ကျယ်ဝန်းသော မြေနေရာတွင် ငါးပုစွန် ပြုပြင် ထုတ်လုပ်ခြင်း နှင့် အအေးခန်း စက်ရုံ တည်ဆောက်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုလွှာကို ရည်ညွှန်းချက် (၁)နှင့်(၂) ပါစာဖြင့် တင်ပြခဲ့ပါသည်။

ယခုအချိန်တွင် လုပ်ငန်း ဆောင်ရွက်မည့် မြေနေရာမှာ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိရေး အတွက် လုပ်ငန်းစီစဉ်ထားမှုနှင့် (Waste Water Treatment Plant) တပ်ဆင်ခြင်း စီစဉ်ထားမှုများ အတွက် ဆောင်ရွက်လျက် ရှိပါသည်။

သို့ဖြစ်ပါ၍ မြန်မာငါးဘုရင် လီမိတက်၏ အဆိုပြုလုပ်ငန်းအား ဆက်လက်ဆောင်ရွက်နိုင်ရန် အတွက် တွေ့ဆုံ ဆွေးနွေး လိုပါသဖြင့် လူကြီးမင်း နှင့် တွေ့ဆုံနိုင်မည့် နေ့တစ်နေ့တွင် တွေ့ဆုံခွင့် ပြုပါရန် တင်ပြ အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

Khin Kyaw
Managing Director
Myanmar King Fish Limited

8729
16-8-2000

KF

မြန်မာ ငါးဘုရင် လီမိတက်
MYANMAR KING FISH LIMITED

Head Office:
No. 77, Nguwa St, Ahlone Twsp.
Yangon, Myanmar.
Tel : 95-1-228919
Fax : 95-1-222921
E-Mail : ukk@mptmail.net.mm

---

၃၃၂၃၄
16/8

သို့

ဒုတိယညွှန်ကြားရေးမှူးချုပ်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၂၀၀၀ ပြည့်နှစ်၊ ဩဂုတ်လ၊ (၁၆)ရက်။

အကြောင်းအရာ ။ ။ မြန်မာငါးဘုရင် လီမိတက်၏ ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းနှင့် အအေးခန်း စက်ရုံတည်ဆောက်ခြင်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စအတွက် တွေ့ဆုံ ဆွေးနွေးခွင့် တောင်းခံခြင်း။

ရည်ညွှန်းချက် ။ ။ ၁။ မြန်မာငါးဘုရင် လီမိတက်၏ (၂၆-၇-၂၀၀၀) ရက်စွဲပါစာ။
၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃-၈-၂၀၀၀)ရက်စွဲပါ စာအမှတ် ရက - ၁ / မ - ၆၂၉ / ၂၀၀၀ (၁၉၄၉)

အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာငါးဘုရင် လီမိတက် **(Myanmar King Fish Limited)** သည် ရန်ကုန်တိုင်း၊ ရွှေပြည်သာ မြို့နယ်၊ မြေတိုင်း ရပ်ကွက် အမှတ် (၆၄)၊ စက်မှုဇုန် အကွက် အမှတ် (၄) ရှိ (၁.၆၉)ဧက ကျယ်ဝန်းသော မြေနေရာတွင် ငါး၊ ပုစွန် ပြုပြင် ထုတ်ခြင်းနှင့် အအေးခန်း စက်ရုံ တည်ဆောက်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာကို ရည်ညွှန်းချက် (၁)ပါစာဖြင့် တင်ပြခဲ့ပါသည်။

အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ လုပ်ငန်း တည်နေရာသည် ငါး၊ ပုစွန်လုပ်ငန်းများ ဆောင်ရွက်ရန် သတ်မှတ် နေရာတွင်သာ ဖြစ်ရန်လိုအပ်ပါ၍ တင်ပြလာသော အဆိုပြုချက်အား လက်မခံကြောင်းကို ရည်ညွှန်းချက် (၂)ပါ စာဖြင့် အကြောင်းပြန်ကြားခဲ့ပါသည်။

သို့ပါ၍ မြန်မာငါးဘုရင် လီမိတက် ၏ အဆိုပြု လုပ်ငန်းအား ဆက်လက် ဆောင်ရွက်နိုင်ရန် အတွက် တွေ့ဆုံ ဆွေးနွေး လိုပါသဖြင့် လူကြီးမင်း အားလပ်မည့်နေ့ တစ်နေ့တွင် တွေ့ဆုံခွင့်ပြုပါရန် တောင်းခံအပ်ပါသည်။

လေးစားစွာဖြင့် -

16/8

**Khin Kyaw**
**Managing Director**
Myanmar King Fish Limited.

21/8 - 3 pm
(Mon)
223293 -
18/8 ...
21/8 (10:30) Confirm ...

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃ / ၆၅၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

တယ်လီဖုန်း - ၂၅၁၇၅၆။

စာအမှတ်၊ ရက - ၁ / မ - ၆၂၉ / ၂ ၀၀၀ ( ၁၉၄၉ )
ရက်စွဲ၊ ၂ ၀ ၀ ၀ ပြည့်နှစ်၊ ဩဂုတ်လ ၂ ရက်။

အကြောင်းအရာ။ ။ မြန်မာ ငါး ဘုရင် လီမိတက်၏ ငါး ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်းနှင့်အအေး ခန်း စက်ရုံတည် ဆောက်ခြင်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။ မြန်မာ ငါး ဘုရင်လီမိတက်၏ ၂၆ - ၇ - ၂ ၀ ၀ ၀ ရက်စွဲပါစာ။

၁။ မြန်မာ ငါး ဘုရင်လီမိတက် ( Myanmar King Fish Ltd. ) သည် ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ် ရွှေပြည်သာ စက်မှုဇုန် ရပ်ကွက်အမှတ်( ၆၄ ) စက်မှုဒေသအကွက်အမှတ်( ၄ )ရှိ( ၁ .၆၉ ) ဧကကျယ်ဝန်း သော မြေနေရာတွင် ငါး ပုဇွန်ပြုပြင်ထုတ်လုပ်မှုနှင့် အအေး ခန်း စက်ရုံတည် ဆောက်ခြင်း လုပ်ငန်း ကိုမြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာ ကိုလက်ခံရရှိပါသည်။

၂။ အဆိုပြုလုပ်ငန်း နှင့် ပတ်သက်၍ လုပ်ငန်း တည်နေရာသည် ငါး ပုဇွန်လုပ်ငန်း များ ဆောင်ရွက်ရန် သတ်မှတ်နေရာတွင်သာ ဖြစ်ရန်လိုအပ်ပါ၍ တင်ပြလာသော အဆိုပြုချက်ကိုလက်မခံကြောင်း အကြောင်းကြား ပါသည်။

အမိန့်အရ၊ -

( သိင်္ဂီတင် )
ဒုတိယညွှန်ကြား ရေး မှူး ချုပ်

အုပ်ချုပ်မှုဒါရိုက်တာ
မြန်မာ ငါး ဘုရင်လီမိတက်
အမှတ်၅၅၊ ၄၀လမ်း၊ အလုံမြို့နယ်၊
ရန်ကုန်မြို့။

လက်ခံရရှိပါသည်။

ဇင်း / *

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
၆၅၃ / ၆၅၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

တယ်လီဖုန်း – ၂၅၂၇၅၆။

စာအမှတ် ၊
ရက်စွဲ ၊

၃က – ၁ / မ – ၆၂၉ / ၂၀၀၀ (၂၇၂၇)
၂၀၀၀ပြည့်နှစ်၊ ဒီဇင်ဘာလ ၁၃ ရက်

အကြောင်းအရာ။ ။ မြန်မာငါး ဘူရင်လီမိတက်၏ ငါး ပုစွန်ပြုပြင်ထုတ်လုပ်ခြင်း နှင့်အအေးခန်း စက်ရုံတည်ဆောက်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။

ရည်ညွှန်းချက်။ ။ (၁) မြန်မာငါး ဘူရင်လီမိတက်၏ (၂၀ – ၉ – ၂၀၀၀) ရက်စွဲပါစာ။
(၂) မြို့ရွာနှင့်အိုး အိမ်ဖွံ့ဖြိုး ရေး ဦး စီး ဌာန၏ (၂၂ – ၁၁ – ၂၀၀၀) ရက်စွဲပါစာအမှတ်၊ စီမံ/ နဆစ / ပစလ – ၂ (၁) / ၂၀၀၀ / (၉၂၁)။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာငါး ဘူရင်လီမိတက်မှရည်ညွှန်း (၁) ပါစာဖြင့်အဆိုပြုတင်ပြလာခြင်း ကိစ္စအပေါ် မြို့ရွာနှင့်အိုး အိမ်ဖွံ့ဖြိုး ရေး ဦး စီး ဌာနမှရည်ညွှန်း (၂) ပါစာဖြင့်သဘောထား မှတ်ချက်ပြန်ကြားလာခြင်းကို (၁ – ၁၂ – ၂၀၀၀) နေ့တွင်ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၉ / ၂၀၀၀) ကြိမ်မြောက်အစည်းအဝေး သို့တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

"လုပ်ငန်းဆောင်ရွက်မည့်မြေနေရာမှာ ပတ်စန်း ကျင်ညစ်ညမ်းနိုင်မှုရှိ – မရှိ၊ Water Treatment Plant တပ်ဆင်ထားခြင်း ရှိ – မရှိကို မြို့ရွာနှင့်အိုး အိမ်ဖွံ့ဖြိုး ရေး ဦး စီး ဌာနမှသွားရောက်စစ်ဆေးပြီး ကော်မရှင်သို့ပြန်လည်တင်ပြရန်၊"

၂။ သို့ဖြစ်ပါ၍ အထက်ပါဆုံးဖြတ်ချက်ကိုသိရှိနိုင်ပါရန်နှင့်လိုအပ်သကဲ့သို့ဆက်လက်ဆောင်ရွက်နိုင်ပါရန်အကြောင်းကြားအပ်ပါသည်။

အမိန့်အရ –

(သိန်းဆွေ)

(သိဂ်ဆွေ)
ဒုတိယညွှန်ကြားရေးမှူး ချုပ်

ညွှန်ကြားရေးမှူးချုပ်
မြို့ရွာနှင့်အိုး အိမ်ဖွံ့ဖြိုး ရေး ဦး စီး ဌာန။

ခင်း / *

၁၂။ မြန်မာငါးဘုရင်လီမိတက်၏ ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းနှင့် အအေးခန်းစက်ရုံတည်ဆောက်ခြင်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

ဒုတိယညွှန်ကြားရေးမှူးချုပ် ဒေါ်သီဂီတင်က မြန်မာငါးဘုရင်လီမိတက်မှ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်တွင် ငါး၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းနှင့် အအေးခန်းစက်ရုံတည်ဆောက်ခြင်းဆောင်ရွက်ရန် အဆိုပြုလွှာကို လုပ်ငန်းတည်နေရာနှင့်ဇယ်လျဉ်း၍ လက်ခံကြောင်း အကြောင်းပြန်ကြားခဲ့ပါကြောင်း၊ ယခု မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၏ သဘောတူထောက်ခံချက်၊ ရေဆိုးများအားအဆင့်ဆင့်သန့်စင်မှုလုပ်ငန်းစဉ် လုပ်ငန်းဆောင်ရွက်မည့်နေရာအား ပြည့်စုံစွာဖော်ပြထားသည့် မြေပုံများနှင့်အတူပူးတွဲ၍ ထပ်မံတင်ပြလာပါကြောင်း၊ ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်ဒုတိယဥက္ကဋ္ဌ ဝန်ကြီးဗိုလ်ချုပ်တင်ထွတ်မှ လုပ်ငန်းဆောင်ရွက်မည့်နေရာမှာ ပတ်ဝန်းကျင်ရှိစက်ရုံများကို အညစ်အကြေး၊ အနံ့အသက်များဖြင့် အနှောင့်အယှက်ပေးနိုင်ခြင်း ရှိ၊မရှိ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေး ဆောင်ရွက်နိုင်မှုအခြေအနေ ရှိ၊မရှိ မျက်မြင်ကွင်းဆင်းစစ်ဆေးသင့်ကြောင်း၊ လိုအပ်ပါက ကော်မရှင်မှလည်းသွားရောက်စစ်ဆေးသင့်ကြောင်း ပြောကြားပါသည်။

ကော်မရှင်အစည်းအဝေးမှ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်မြေနေရာအနေဖြင့် ပတ်ဝန်းကျင်အား အနှောင့်အယှက် ဖြစ်နိုင် ၊မဖြစ်နိုင် ပတ်ဝန်းကျင်ရှိစက်ရုံများ လုပ်ငန်းဆောင်ရွက်ရန် သင့်မသင့် မြို့ပြောနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ သွားရောက်စစ်ဆေးပြီးကော်မရှင်သို့ ပြန်လည်တင်ပြရန်ဆုံးဖြတ်ပါသည်။

| | | |
|---|---|---|
| ၁၂ | မြန်မာငါးဘုရင်လီမိတက်၏ ငါး၊ပုစွန်ပြုပြင် ထုတ်လုပ်ခြင်းနှင့် အအေးခန်း နှင့် စက်ရုံတည်ဆောက်ခြင်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။<br>ဆုံးဖြတ်ချက်။<br>– အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေနေရာအနေဖြင့် ပတ်ဝန်းကျင်အား အနှောင့်အယှက်ဖြစ်နိုင်၊မဖြစ်နိုင် ပတ်ဝန်းကျင်ရှိစက်ရုံများလုပ်ငန်းဆောင်ရွက်ရန် သင့်၊မသင့် မြို့ပြောနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှသွားရောက် စစ်ဆေးပြီး ကော်မရှင်သို့ ပြန်လည်တင်ပြရန်၊ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ဆောက်လုပ်ရေး ဝန်ကြီးဌာန |

**လျှို့ဝှက်**

ကော်မရှင်၏ ၃၄ / ၂၀၀၀

အစည်းအဝေး

အကြောင်း အရာ။ ။ မြန်မာ့ငါးဘုရင်လီမိတက်၏ ငါး၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းနှင့်အအေးခန်းစက်ရုံတည် ဆောက်ခြင်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာ့ငါးဘုရင်လီမိတက်၏ ငါး၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းနှင့် အအေးခန်းစက်ရုံတည်ဆောက်ခြင်း ဆောင်ရွက်ရန်အဆိုပြုလွှာကို (၂၆-၇-၂၀၀၀) ရက်စွဲပါစာဖြင့် ကော်မရှင်သို့တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ အဆိုပြုလွှာတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ လုပ်ငန်းတည်နေရာသည် ငါး၊ ပုစွန်လုပ်ငန်းများ ဆောင်ရွက်ရန်သတ်မှတ်နေရာတွင်သာ ဖြစ်ရန်လိုအပ်ပါ၍ တင်ပြလာသော အဆိုပြုချက်ကို လက်မခံကြောင်းအကြောင်းပြန်ကြားခဲ့ပါသည်။

၃။ မြန်မာ့ငါးဘုရင်လီမိတက်သည် (၁၆-၈-၂၀၀၀) ရက်စွဲပါစာဖြင့်အဆိုပြုလုပ်ငန်းအားဆက်လက် ဆောင်ရွက်နိုင်ရန်အတွက် တွေ့ဆုံခွင့်တောင်းခံခဲ့ရာ (၂၁-၈-၂၀၀၀) နေ့တွင် တွေ့ဆုံဆွေးနွေးခွင့်ရရှိခဲ့ပါသည်။ အဆိုပါတွေ့ဆုံဆွေးနွေးရာတွင်သိရှိခဲ့ရသည့်လိုအပ်ချက်များဖြစ်သည့် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏သဘောထားမှတ်ချက်၊ ရေဆိုးများအားအဆင့်ဆင့်သန့်စင်ပုံလုပ်ငန်းစဉ်၊ လုပ်ငန်းဆောင်ရွက်မည့်နေရာအားပြည့်စုံစွာဖော်ပြထားသည့်မြေပုံများ နှင့်အတူပူးတွဲ၍ (၂၀-၉-၂၀၀၀) ရက်စွဲပါစာဖြင့်တင်ပြလာပါသည်။

မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏သဘောထား

မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနသည်အအေးခန်းစက်ရုံတည်ဆောက်၍ ငါး၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကိုအားပေးကူညီလျက်ရှိပါသဖြင့် မြန်မာ့ငါးဘုရင်လီမိတက်မှလုပ်ငန်းဆောင်ရွက်ခွင့်အဆိုပြုတင်ပြချက်အပေါ် ကန့်ကွက်ရန်မရှိပါကြောင်းနှင့် ဆောင်ရွက်သင့်သောလုပ်ငန်းဖြစ်ကြောင်း ထောက်ခံပြန်ကြားထားပါသည်။

၄။ တင်ပြလွှာနှင့် မှုခံယူအပ်ပါသည်။

ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း
မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်
ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# မြန်မာ ငါးဘုရင် လီမိတက်

❀❀❀❀❀❀❀❀❀❀

# PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR

## MYANMAR KING FISH LIMITED.

ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း
မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်
ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# မြန်မာ ငါးဘုရင် လီမိတက်

❀❀❀❀❀❀❀❀❀❀

# PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR

**MYANMAR KING FISH LIMITED.**

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏

အဆိုပြုချက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စု မြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၂၀၀၀ ပြည့်နှစ်၊ ဇူလိုင် လ၊ ( ၂၆ )ရက်။

အကြောင်းအရာ ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ အကြိုစိစစ်ပေးနိုင်ရန်ပေးပို့ခြင်း။**

အထက် အကြောင်းအရာနှင့် ပတ်သတ်၍ ကျွန်တော်တို့၏ **MYANMAR KING FISH LTD** ( **မြန်မာ ငါးဘုရင် လီမိတက်** ) အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် နိုင်ငံတကာ အဆင့်မီ ငါးပုစွန် ပြုပြင်ထုတ်လုပ်မှုနှင့် အအေးခန်း စက်ရုံ **( PROCESSING & COLD STORAGE FACTORY)**ကို တည်ဆောက်ပြီး ရေခဲနှင့် သန့်ရှင်း လတ်ဆတ်သော ငါး၊ ပုစွန်များ ထုတ်လုပ်ရောင်းချသည့်လုပ်ငန်း လုပ်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

သို့ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ လိုအပ်သလို စိစစ်ပေးနိုင်ရန် အတွက် အဆိုပြုလွှာ (၆) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေ လေးစားစွာဖြင့်
လျှောက်ထားသူ

ဦးခင်ကျော်
( အုပ်ချုပ်မှု ဒါရိုက်တာ )
**MYANMAR KING FISH LTD.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။

နေ့စွဲ ။ ။ ၂၀၀၀ ပြည့်နှစ်၊ ဇူလိုင် လ၊ (၂၆)ရက်။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သတ်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။

အထက်အကြောင်းအရာပါ ကိစ္စနှင့် ပတ်သတ်၍ ကျွန်တော်တို့ **MYANMAR KING FISH LTD** ( မြန်မာ ငါးဘုရင် လီမိတက် ) အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် တန်(၂၀၀) ဆန့် နိုင်ငံတကာ အဆင့်မီ ငါး၊ ပုစွန် ပြုပြင် ထုတ်လုပ်မှု နှင့် အအေးခန်း စက်ရုံ ( **PROCESSING & COLD STORAGE FACTORY**) တည်ဆောက်ပြီး သန့်ရှင်း လတ်ဆတ်သော ငါး၊ ပုစွန်များ ထုတ်လုပ် ရောင်းချသည့် လုပ်ငန်း လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။ ထိုသို့လျှောက်ထားရာတွင် အောက်ပါအတိုင်း ဝန်ခံ ကတိပြုပါသည်။

(၁) ဤအဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်သော လုပ်ငန်း ဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်း ဝန်ခံကတိ ပြုပါသည်။

(၂) ဤ အဆိုပြုလုပ်ငန်းသည် ရေထွက် ကုန်ပစ္စည်းများအား ပြည်ပသို့တင်ပို့ ရောင်းချခြင်းအတွက် ဈေးကွက်အခိုင်အမာ ရှိပြီး ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၃) ဤအဆိုပြု လုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် ရရှိမှသာ စတင်ဆောင်ရွက်မည့် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၄) နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

(၅) လုပ်ငန်း ဆောင်ရွက် ရာတွင် ပြည်ပမှ ချေးငွေ ရယူခြင်းသည် နိုင်ငံတော် နှင့် သက်ဆိုင်ခြင်း မရှိ စေဘဲ ချေးယူသူ၏ တာဝန်သာဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။ ချေးငွေပြန်လည် ပေးဆပ်ရာတွင်လည်း အဆိုပြု လုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(၆) ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်း ဆောင်ရွက်ရာ တွင်လည်း ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု မဖြစ်ပွားစေရန်နှင့် မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည် ဖြစ်ကြောင်း၊စက်ရုံတွင် အန္တရာယ်ကင်းရှင်းစေသော အမိုးနီးယား ဓာတ်ငွေ့သုံး ခေတ်မီစက်အသစ်များကိုသာ သုံးစွဲ ဆောင်ရွက်သွားမည် ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် **Waste Water Treatment Plant** တပ်ဆင် အသုံးပြုမည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေ လေးစားစွာဖြင့်
လျှောက်ထားသူ

ဦးခင်ကျော်
( အုပ်ချုပ်မှု ဒါရိုက်တာ )
MYANMAR KING FISH LTD

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၂၀၀၀ ပြည့်နှစ်၊ ဇူလိုင် လ၊ (၂၆)ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်ထုတ်ပေးပါရန်နှင့် ယင်းဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့် ပြုပါရန်လျှောက်ထားခြင်း။

၁။ အထက် အကြောင်း အရာပါ ကိစ္စနှင့် ပတ်သတ်၍ ကျွန်တော်တို့ **MYANMAR KING FISH LTD** ( မြန်မာ ငါးဘုရင် လီမိတက် ) အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် တန် (၂၀၀) ဆန့် နိုင်ငံတကာ အဆင့်မီ ငါး၊ ပုစွန် ပြုပြင် ထုတ်လုပ်မှု နှင့် အအေးခန်း စက်ရုံ ( **PROCESSING & COLD STORAGE FACTORY** ) တည်ဆောက်ပြီး သန့်ရှင်း လတ်ဆတ်သော ငါး၊ ပုစွန်များ ထုတ်လုပ် ရောင်းချသည့် လုပ်ငန်း လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ကျွန်တော်တို့ကုမ္ပဏီသည် ရန်ကုန်တိုင်း၊ ရွှေပြည်သာ မြို့နယ်၊ မြေတိုင်းရပ်ကွက် အမှတ် (၆၄) စက်မှုဒေသ၊ အကွက် အမှတ် (၄)၊ ဧရိယာ(၁.၆၉) ဧက အကျယ်အဝန်းရှိသော မြေနေရာတွင် နိုင်ငံတကာ အဆင့်မီ ငါး၊ ပုစွန် ပြုပြင် ထုတ်လုပ်မှု နှင့် အအေးခန်းစက်ရုံ တည်ဆောက်ပြီး၊ ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် ကုန်ကြမ်းများ ဝယ်ယူ၍ ခေတ်မီ နည်းပညာများ၊ စက်ကိရိယာများဖြင့် ထုတ်လုပ်၍ ပြည်ပသို့ တင်ပို့ ရောင်းချမည်ဖြစ်ပါသည်။

၂။ ကျွန်တော်တို့၏ ကုမ္ပဏီသည် နိုင်ငံတကာ အဆင့်မီ ငါး၊ ပုစွန် ပြုပြင် ထုတ်လုပ်မှု နှင့် အအေးခန်းစက်ရုံ တည်ဆောက်၍ ငါး၊ ပုစွန် ထုတ်လုပ်ခြင်း အတွက် မတည်ရင်းနှီးငွေ ကျပ် သန်းပေါင်း (၆၉.၆၅) သန်းကို မြန်မာကျပ်ငွေ၊ စက်ရုံအဆောက်အဦး၊ စက်ပစ္စည်း ကိရိယာများ၊ ကုန်ကြမ်း ပစ္စည်းများဖြင့် ထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံ ကြမည်ဖြစ်ပါသည်။ ထုတ်လုပ် ရရှိလာသော နိုင်ငံတကာ အဆင့်အတန်းမီ သန့်ရှင်း လတ်ဆတ်သော ငါး၊ ပုစွန်များကို နိုင်ငံခြားသို့ ရာခိုင်နှုန်းပြည့် တင်ပို့ရောင်းချ မည် ဖြစ်ပါသည်။

၃။ ကျွန်တော်တို့၏ ကုမ္ပဏီလီမိတက်သည် အဆိုပြုလုပ်ငန်း အတွက် လိုအပ်သော အမေရိကန် ဒေါ်လာ (၁.၂၅)သိန်း တန်ဖိုး ရှိသော စက်ပစ္စည်းကိရိယာများ၊ လုပ်ငန်းသုံး ပစ္စည်းများကို အိန္ဒိယနိုင်ငံ **ANDAMAN SEA FOODS PVT LTD** မှ **Deferred Payment Loan Agreement** ဖြင့် ဝယ်ယူ တင်သွင်း၍ လေးနှစ်ဖြင့် ပြန်လည်ပေးဆပ်ရန် တနှစ်လျှင် (၅) ရာခိုင်နှုန်း အတိုးဖြင့် လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ကျွန်တော်တို့ ကုမ္ပဏီ၏ နိုင်ငံတကာအဆင့်မီ ငါး၊ ပုစွန် ပြုပြင် ထုတ်လုပ်မှုနှင့် အအေးခန်းစက်ရုံ တည်ဆောက်၍ ငါး၊ ပုစွန် ထုတ်လုပ်ခြင်း လုပ်ငန်းသည် နိုင်ငံတော်အတွင်း နိုင်ငံခြားဝင်ငွေများ စီးဝင်လာစေခြင်း၊ နိုင်ငံတော် အတွက် အခွန် ဘဏ္ဍာငွေများ တိုးပွား ရရှိစေခြင်း၊ မြန်မာနိုင်ငံသားများ၏ အလုပ်အကိုင် အခွင့်အလမ်းများ တိုးတက် ပေါ်ပေါက်စေခြင်း၊ နိုင်ငံတော် အတွင်း ခေတ်မီ နည်းပညာရပ်များ တိုးပွား ရရှိစေခြင်း၊ နိုင်ငံတော်၏ ဘက်စုံ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အရှိန်အဟုန် မြှင့်၍ ထောက်ကူ ပံ့ပိုးပေးခြင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရန် အကာအကွယ်ပေးသည့် ပစ္စည်းကိရိယာများ ( **Environmental Treatment Plants** ) တပ်ဆင်အသုံးပြုခြင်း စသည့်အကျိုးစီးပွားဖြစ်ထွန်း ပေါ်ပေါက်စေသည့် အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဤအဆိုပြုချက်ကို လက်ခံ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် (**Permit**)ထုတ်ပေးပါရန် လေးစားစွာလျှောက်ထားတင်ပြအပ်ပါသည်။

၅။ ကျွန်တော်တို့ ကုမ္ပဏီအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ တို့ အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန်နှင့် ပြည်ပသို့ နိုင်ငံခြားငွေဖြင့် သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ရောင်းချရာတွင် ကုန်သွယ်လုပ်ငန်းခွန် သက်သာခွင့်ရရှိရေးအတွက် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနသို့ ထောက်ခံတင်ပြခွင့်ပြုပါရန် လေးစားစွာတင်ပြအပ်ပါသည်။

၆။ ဤအဆိုပြုချက်နှင့်အတူ အောက်ဖော်ပြပါ စာရွက်စာတမ်း အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(၁) ကမကထ ပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက် (မနသ-ပုံစံ)
(၂) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊
(၃) မြေပိုင်ဆိုင်မှု အထောက်အထားများ၊
(၄) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊
(၅) ဘဏ္ဍာရေးဆိုင်ရာအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုများ၊

စသည်တို့ဖြစ်ပါသည်။

၇။ သို့ဖြစ်ပါ၍ ဤအဆိုပြုချက်အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ လက်ခံခွင့် ပြုပါရန် နှင့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့် ပြုပါရန် ခွင့်ပြုမိန့် **( Permit )** ထုတ်ပေး သင့်ပါကြောင်း လေးစားစွာ ထောက်ခံအပ်ပါသည်။

လေးစားစွာဖြင့်

ဦးခင်ကျော်
အုပ်ချုပ်မှု ဒါရိုက်တာ/ကမကထပြုသူ
MYANMAR KING FISH LTD.

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏

အဆိုပြုချက်

ပုံစံ (မနသ-၁)

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

(ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ။ ။ ၂၆-၇-၂၀၀၀

ကျွန်တော် /ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့် ထုတ်ပေးပါရန် အောက်ပါ အချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

| | | |
|---|---|---|
| (က) | အမည် | ဦးခင်ကျော် |
| (ခ) | အဖအမည် | ဦးလှမောင် |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၁၂/သဃက (နိုင်) ၁၁၁၅၁၆ |
| (ဃ) | နေရပ်လိပ်စာ | အမှတ်(၇၇)၊ ၄ဝါလမ်း၊ အလုံမြို့နယ်၊ ရန်ကုန်မြို့။ |
| (င) | လူမျိုး၊ ဘာသာ | ဗမာ ၊ ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | မြန်မာ ငါးဘုရင် လီမိတက်<br>MYANMAR KING FISH LTD |
| (ဆ) | လုပ်ငန်းအမျိုးအစား | ငါး၊ ပုစွန် ပြုပြင် ထုတ်လုပ်မှုနှင့် အအေးခန်း စက်ရုံ |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုမည့်သူများ၏ -

(က) အမည် -

(ခ) အဖအမည် -

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် -

(ဃ) နေရပ်လိပ်စာ -

(င) လူမျိုး၊ ဘာသာ -

(စ) အဖွဲ့အစည်းအမည် -

(ဆ) လုပ်ငန်းအမျိုးအစား -

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် -

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား -

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း - တန် (၂၀၀) ဆန့် အအေးခန်း စက်ရုံ တည်ဆောက် ၍ သန့်ရှင်း လတ်ဆတ် သော ငါး၊ ပုဇွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း

(ခ) ဝန်ဆောင်မှုလုပ်ငန်း -

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ -

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း - လီမိတက်ကုမ္ပဏီ(နောက်ဆက်တွဲဇယား - ၁)

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း -

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း -

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေး အဖွဲ့အစည်းပုံသဏ္ဌာန် -

(က) တစ်ဦးတည်းပိုင် -
(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း -
(ဂ) လီမိတက် ကုမ္ပဏီ - **MYANMAR KING FISH LTD**
(ဃ) သမဝါယမအသင်း -

၆။ ဖက်စပ်/ အစုစပ်လုပ်ငန်းဖြစ်ပါက -
(က) အစုဝင်တို့က ထည့်ဝင်မည့် အစုငွေ အမျိုးအစားနှင့် ပမာဏ -
(ခ) အကျိုးအမြတ် ခွဲဝေမည့် အမျိုးအစား -
(ဂ) အစုဝင်များ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ -

၇။ သမဝါယမအသင်း/ လီမိတက် ကုမ္ပဏီဖြစ်ပါက -

| | | |
|---|---|---|
| (က) ခွင့်ပြု မတည်ငွေရင်း | - | ကျပ် ၅၀၀,၀၀၀,၀၀၀/- (ကျပ် သန်း ငါးရာတိတိ) |
| (ခ) အစုရှယ်ယာ အမျိုးအစား | - | တစ်စုလျှင်ကျပ်၁,၀၀၀/- (ကျပ် တစ်ထောင်တိတိ တန်) သာမန် အစုရှယ်ယာ ၅၀၀,၀၀၀ (ငါးသိန်း) |
| (ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့် အစုရှယ်ယာပမာဏ | - | ကျပ် ၆၉,၆၅၀,၀၀၀/- ( ကျပ် ခြောက်ရာကိုးဆယ့်ခြောက်သိန်းနှင့် ငါးသောင်းတိတိ ) တစ်စုလျှင်ကျပ် ၁,၀၀၀/- (ကျပ် တစ်ထောင်တိတိတန်) အစုရှယ်ယာ ၆၉,၆၅၀/- (ခြောက်သောင်းကိုးထောင်ခြောက်ရာငါးဆယ်) |

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ -

(က) မတည်ငွေရင်းပမာဏ(ယခုအဆိုပြုလုပ်ငန်းအတွက်) (ကျပ်)

| | | |
|---|---|---|
| (၁) | ငွေပမာဏ | ၂၀,၀၀၀,၀၀၀ |
| (၂) | မြေ | ၁၃,၂၀၀,၀၀၀ |
| (၃) | အဆောက်အဦး(နောက်ဆက်တွဲဇယား-၂) | ၁၅,၅၀၀,၀၀၀ |
| (၄) | စက်ပစ္စည်းကိရိယာများ(နောက်ဆက်တွဲဇယား-၃) US$ 125000 | ၇၅၀,၀၀၀ |
| (၅) | စက်ပစ္စည်းကိရိယာများ(နောက်ဆက်တွဲဇယား-၃က) | ၂၀,၉၅၀,၀၀၀ |
| | စုစုပေါင်း ထည့်ဝင်ရင်းနှီးငွေ | ၇၀,၄၀၀,၀၀၀ |

( စက်ပစ္စည်းကရိယာများကို MYANMAR KING FISH LTD သည် စက်ပစ္စည်းများကို အိန္ဒိယနိုင်ငံ၊ ANDAMAN SEA FOODS PVT LTD. ရွှေ့ဆိုင်းငွေ ပေးချေစနစ် ( Deferred Payment System ) အရ(၄) နှစ် အကြွေးဖြင့် တစ်နှစ်လျှင် ၅ ရာခိုင်နှုန်း အတိုးနှုန်းဖြင့် ဝယ်ယူ မည်ဖြစ်ပါသည်။

(ခ) နိုင်ငံခြားမှတင်သွင်းရန် လိုအပ်သည့်

| | | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|---|
| (၁) | စက်ပစ္စည်းများ၊ စက်ကိရိယာများ၏တန်ဖိုး | ၇၅၀,၀၀၀ | ၁၂၅,၀၀၀ |
| (၂) | ကုန်ကြမ်းပစ္စည်းများနှင့်အခြားအလားတူ ပစ္စည်းတန်ဖိုး | - | - |
| (၃) | ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ | - | - |
| | | ၇၅၀,၀၀၀ | ၁၂၅,၀၀၀ |

(ဂ) တည်ဆောက်မှုကာလ — ၆လ

(ဃ) ပမာဏစုးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ — ၄လ

(င) တည်ဆောက်မှုစတင်မည့်အချိန် — မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်ရရှိသည့်နေ့မှစတင်ဆောင်ရွက်သွားမည်။

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သော အချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား - တန် (၂၀၀) ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ သန့်ရှင်း လတ်ဆတ်သော ငါး၊ ပုဇွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ - ရွှေပြည်သာမြို့နယ်၊ မြေတိုင်းရပ်ကွက် အမှတ် (၆၄)၊ စက်မှုဒေသ၊ မြေကွက်အမှတ် (၄)၊

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - ခေတ်မီထုတ်လုပ်ခြင်းစနစ်

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက် -

| | | | |
|---|---|---|---|
| ၁။ | ဒီဇယ်ဆီ | - | ဂါလံ(၁၀၀၀၀) |
| ၂။ | ဓါတ်ဆီ | - | ဂါလံ( ၂၂၀၀) |
| ၃။ | စက်ဆီ၊ ချောဆီ | - | ဂါလံ( ၁၀၀) |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက် -

| | | | |
|---|---|---|---|
| ၁။ | လျှပ်စစ်ဓါတ်အား | - | ၄၀၀ KW |
| ၂။ | ဒီဇယ်ဆီအင်ဂျင်စက်အား | - | (၅၅၀) H.P |
| ၃။ | ဘိုင်လာအသုံးပြုအင်ဂျင်စက်အား | - | |
| ၄။ | သဘာဝဓါတ်ငွေ့သုံးစက်အား | - | |
| ၅။ | ပေးပို့သည့် အခြားအား (ရေအား/လေအားစသည်များ) | - | |

(စ) နှစ်စဉ်ရေလိုအပ်ချက်

| | | | |
|---|---|---|---|
| ၁။ | တစ်နေ့ ရေလိုအပ်ချက်ဂါလံ | - | ဂါလံ(၈၀၀၀) |
| ၂။ | တစ်နှစ် ရေလိုအပ်ချက် | - | ဂါလံ(၂၄၀,၀၀၀) |

FORM VI

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment ~~from the~~ made on 3rd day of May, 2000.

on the of 19 of the *MYANMAR KING FISH LIMITED.

Made pursuant to Section 104(1)

Number of the shares allotted payable in cash ..... 5500 Shares

" " " " .....

Nominal amount of the shares so allotted ..... Ks. 5,500,000/-

" " " " .....

Amount paid or due and payable on each such share .... Ks. 1,000/-(Fully paid

" " " "

Number of ordinary shares allotted for a consideration other than cash Nil

Nominal amount of the ordinary shares so allotted .... Nil

Amount to be treated as paid on each such share .... Nil

The consideration for which such share have been allotted is as folllows:- Nil

---

NOTE: In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the word made substituted for the word "From" after the word "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

FORM VI

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment ~~from the~~ made on 21st day of March, ~~199~~ 2000.

on the of 19 of the * MYANMAR KING FISH LIMITED.

Made pursuant to Section 104(1)

Number of the shares allotted payable in cash ..... 44500 Shares (Inclusive of subscriber's shares)

" " " " .....

Nominal amount of the shares so allotted ..... Ks. 44,500,000/-

" " " " .....

Amount paid or due and payable on each such share .... Ks. 1,000/-(Fully paid)

" " " "

Number of ordinary shares allotted for a consideration other than cash Nil

Nominal amount of the ordinary shares so allotted .... Nil

Amount to be treated as paid on each such share .... Nil

The consideration for which such share have been allotted is as folllows:- Nil

---

**NOTE:** In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the word made substituted for the word "From" after the word "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

PARTICULARS OF DIRECTOR

Name of Company : MYANMAR

| The present christian name or names of surnames | Nationality, National Registration Card No. |
|---|---|
| 1. U Khin Kyaw | Myanmar DKU - 019458 |
| 2. U Win Aung | Myanmar PBDN - 001597 |
| 3. Daw Aye Aye Myint | Myanmar MDN - 005270 |
| 4. Daw Poe Kyu (a) Daw Yin Yin Aye | Myanmar 12/Pa Ba Ta (Naing)022806 |

NOTE : (1) A complete list of the Directors or Ma

(2) A note of the changes since the last list of ................................." and by wri change against the entry.

Dated this 21 - 3 - 2000. ...

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

# မြန်မာ ငါးဘုရင် လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

## Memorandum Of Association

*AND*

## Articles Of Association

*OF*

# MYANMAR KING FISH LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် သက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ ငါးဘုရင် လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ **ကုမ္ပဏီ၏** အမည်သည် " **မြန်မာ ငါးဘုရင် လီမိတက်** " ဖြစ်ပါသည်။

၂။ **ကုမ္ပဏီ၏** မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ **ကုမ္ပဏီ** တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းသည် ကျပ် ၅၀၀ ၀၀၀ ၀၀၀ /-(ကျပ် သန်း ငါး ရာ တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀/-(ကျပ် တစ်ထောင် တိတိ) တန် အစုရှယ်ယာပေါင်း (၅၀၀ ၀၀၀) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကိုကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

(၁) နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါ ကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

- ✓ (က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ထုပ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊
- ✓ (ခ) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊
- ✓ (ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊
- ✓ (ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊
- (င) ဓာတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်း၊
- (စ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
- (ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
- (ဇ) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
- (ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊
- (ည) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊
- (ဋ) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊
- (ဌ) လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
- (ဍ) [redacted]
- (ဎ) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊

(၂) အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်နှင့် ထွက်ရှိလာသောကုန်ချောများ၊တစ်စိတ်တစ်ဒေသ ကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကား ရောင်းချရန်။

(၃) ဆောက်လုပ်ရေးလုပ်ငန်းများကို လုပ်ကိုင်ရန်နှင့် ယင်းလုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ၊ အပိုပစ္စည်းများနှင့် အခြားဆောက်လုပ်ရေးပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်။

(၄) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

**ခြွင်းချက်**။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကိုလုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ် ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့် အလျှောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏မတည် ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ်။ | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးခင်ကျော်<br>အမှတ်-၇၇၊<br>ဥဒါလမ်း၊<br>အလုံမြို့နယ်၊<br>ရန်ကုန်။<br>(ကုန်သည်) | မြန်မာ<br>ဒီကေယူ-၁၁၉၄၅၈ | ၆၅၁ | |
| ၂။ | ဦးခင်းအောင်<br>အမှတ်-၂၂၊<br>ရွှေဘိုဂုံဘုရားလမ်း၊<br>ပန်းဘဲတန်းမြို့နယ်၊<br>ရန်ကုန်။<br>(ကုန်သည်) | မြန်မာ<br>ပီဘီဒီအင်(န်)-<br>၀၁၁၅၉၇ | ၃၅၁ | |

ရန်ကုန်။နေ့စွဲ၊ ၁၉၉၉ ခုနှစ်၊ ဒီဇင်ဘာ လ၊ ၂၇ ရက်။

*အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။*

ဦးမြတ်လွင်မိုး၊ ဘီကွမ်း၊ ဓိပိအေ
စာ ရင်း စစ်
အမှတ်-၁၂၃၊ ကုန်ဈေးတန်းလမ်း၊ ရန်ကုန်မြို့။

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ ငါးဘုရင် လီမီတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်း မှာ ကျပ် ၅၀၀ ၀၀၀ ၀၀၀ /-(ကျပ်
သန်း ငါး ရာ တိတိ) ဖြစ်၍ ငွေကျပ် ၁ ၀၀၀ /-(ကျပ်
တစ် ထောင် တိတိ) တန် အစုရှယ်ယာပေါင်း (၅၀၀ ၀၀၀) ခွဲထားပါသည်။
ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ ( ၁၁ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

(၁) **ဦးခင်ကျော်**

(၂) **ဦးဝင်းအောင်**

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး (-- )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာ ဦးရေသတ်မှတ်ခြင်း တို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေး အထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကို မဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေ အတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာ အားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

**ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ**

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ–

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့် ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သော စည်းကမ်းချက်များ သတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြား နည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်း သတ်မှက်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည် ပေးဆပ်ရန်အတွက် အာမခံများ ထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ၊ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့်ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ် အားလုံးကို ဖြစ်စေ၊ တစ်စိတ် တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီ မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့ပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

**နို့တစ်စာ**

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၄င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

**တံဆိပ်**

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

**လျော်ကြေး**

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

**ဖျက်သိမ်းခြင်း**

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ် ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့် အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏မတည် ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ်။ | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးခင်ကျော်<br>အမှတ်-၇၇၊<br>ငုဝါလမ်း၊<br>အလုံမြို့နယ်၊<br>ရန်ကုန်။<br><br>(ကုန်သည်) | မြန်မာ<br>ဒီကေယူ-၁၁၉၄၅၈ | ၆၅၀ | |
| ၂။ | ဦးဝင်းအောင်<br>အမှတ်-၂၂၊<br>ရွှေတိဂုံဘုရားလမ်း၊<br>ပန်းဘဲတန်းမြို့နယ်၊<br>ရန်ကုန်။<br><br>(ကုန်သည်) | မြန်မာ<br>ပီဘီဒီအင်(နိ)-<br>၀၁၁၅၉၇ | ၃၅၀ | |

ရန်ကုန်။နေ့စွဲ၊ ၁၉၉၉ ခုနှစ်၊ ဒီဇင်ဘာ လ၊ ၂၇ ရက်။

*အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။*

ဦး၊မြင့်လွင်မိုး၊ ဘီကွမ်း၊ စီပီအေ
စာရင်းစစ်
အမှတ်-၁၂၃၊ ကုန်ဈေးတန်းလမ်း၊ ရန်ကုန်မြို့။

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

# MYANMAR KING FISH LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

I. The name of the Company is **MYANMAR KING FISH LIMITED.**

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is Ks. 500,000,000 /- ( Kyats Five Hundred Million Only ) divided into ( 500,000 ) shares of Ks. 1,000 /- ( Kyats One Thousand Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

To carry on the business of manufacturing, growing, milling and preserving etc; of the following commodities permitted by the Government, either solely on its own or in joint-venture with any local or foreign partners.

(a) Growing, producing, harvesting, preserving, packaging, milling and manufacturing of agricultural and farm produces.

(b) Felling, extracting (with the permission from the authorities concerned), milling, manufacturing, preserving and seasoning of timber (excluding teak) and forest products.

(c) Livestock breeding, processing and canning of livestock products.

(d) Fishing, preserving, milling, canning and processing of marine products.

(e) Producing fertilizers, insecticides and animal feeds.

(f) Manufacturing of personal goods.

(g) Manufacturing of household goods.

(h) Manufacturing of vehicles, machineries and spares.

(i) Manufacturing of Arts and crafts, lacquerwares and furniture.

(j) Manufacturing of construction materials and paints.

(k) Manufacturing of factory utencils.

(l) Manufacturing of electrical and electronic goods.

~~(m) Manufacturing of medicines.~~

(n) Manufacturing of textile, garments and clothings.

(2) To import machinery, spare parts, raw materials and others necessary for those activities mentioned above and to sell wholesale and retail finished and semi-finished products locally and abroad.

(3) To carry on the business of construction works and to import machinery, spare parts and other construction materials necessary for the above mentioned activities.

(4) To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

***PROVISO:*** - *Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.*

We, the several persons whose names, nationality, addresses and description are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | U Khin Kyaw<br>No.77,<br>Nguwa Street,<br>Ahlone Township,<br>Yangon.<br>(Merchant) | Myanmar<br>DKU-019458 | 650 | |
| 2. | U Win Aung<br>No.22,<br>Shwedagon Pagoda Road,<br>Pabedan Township,<br>Yangon.<br>(Merchant) | Myanmar<br>PBDN-001597 | 350 | |

Yangon. Date the 27th day of December, 1999.

*It is hereby certified that the persons mentioned above put their signatures in my presence.*

U MYAT LWIN MOE. B.Com, C.P.A
AUDITOR
NO: 123 KONZAYDAN STREET, YANGON.

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

# MYANMAR KING FISH LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

   *(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

   *(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorised Capital of the Company is Ks. 500,000,000 /- ( Kyats Five Hundred Million Only) divided into( 500,000 ) shares of K. 1,000 /- ( Kyats One Thousand Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

**DIRECTORS**

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than (11 ).

The First Directors shall be:-

(1) U Khin Kyaw
(2) U Win Aung

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least ( -- ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

**PROCEEDINGS OF DIRECTORS**

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting to the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:—

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contracts or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Department Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any perosn or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend or abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws, for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or finacial organisation of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time ( not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*

*(2) all sales and purchases of goods by the Company;*

*(3) all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

**NOTICE**

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

**THE SEAL**

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

**INDEMNITY**

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

**WINDING-UP**

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

❖ ❖ ❖ ❖

We, the several persons whose names, nationality, addresses and description are subscribed below, are desirous of being formed into a Company in pursuance of these Articles of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | U Khin Kyaw<br>No.77,<br>Nguwa Street,<br>Ahlone Township,<br>Yangon.<br>(Merchant) | Myanmar<br>DKU-019458 | 650 | |
| 2. | U Win Aung<br>No.22,<br>Shwedagon Pagoda Road,<br>Pabedan Township,<br>Yangon.<br>(Merchant) | Myanmar<br>PBDN-001597 | 350 | |

Yangon. Date the 27th day of December, 1999.

*It is hereby certified that the persons mentioned above put their signatures in my presence.*

U MYAT LWIN MOE, B.Com, C.P.A
AUDITOR
NO: 123 KONZAYDAN STREET, YANGON: